

# မွတ်စ်လင်မ်အမျိုးသမီး၏

# ဂုဏ်ရည်များ




စုစည်းတင်ပြသူ

မောင်လာနာ ဟာဖိဇ် ကာရီ

မိုဟမ္မဒ် ဖိုင်ဆွလ် (အလ်ကောင်ဆရီ)

ကြီးကြပ်သူ

ဟာဇရသ် မောင်လာနာ ဟော့ရှားမ် (နဒ်ဝီ)

ဟဒီးဆ်တန်းပြဆရာကြီး

ဂျာမေအာသွလ်ကောင်ဆရစ်လ်အာစွလာမိယာဟ်

(မြစ်ငယ်မြို့)

# မာတိကာ

## စာရေးသူ၏ အမှာစာ

လောကမှာ လူသားကို ယေဘုယျအားဖြင့် ကြည့်မယ်ဆိုရင် အမျိုးသားနှင့် အမျိုးသမီးဆိုပြီး အုပ်စုနှစ်စုကို တွေ့ရမှာဖြစ်ပါတယ်။ ထိုအုပ်စုနှစ်စုအနက်မှ ဘယ်အုပ်စုဟာ ကျွန်တော်တို့ရဲ့ ပတ်ဝန်းကျင်ကို အစ္စလာမ့်ပတ်ဝန်းကျင်အဖြစ် ပြုပြင်ပြောင်းလဲတဲ့ နေရာမှာ အရေးပါဆုံးဖြစ်နိုင်မလဲ? ဒါနဲ့ပတ်သက်ပြီး ကျွန်တော့်အမြင်ကို ပြောရမယ်ဆိုရင် အစ္စလာမ့်ပတ်ဝန်း ကျင်တစ်ခုတည်ဆောက်ဖို့အတွက် အရေးကြီးလိုအပ်ဆုံး အရင်းအမြစ်မှာ မွတ်စ်လင်မ်အမျိုးသမီးတွေရဲ့ အခန်းကဏ္ဍပဲဖြစ်ပါတယ်။ မွတ်စ်လင်မ်အမျိုးသမီးများဟာ မိမိတို့ သားသမီးတွေကို အစ္စလာမ့်ချစ်စိတ်တွေ ထည့်ပေးခြင်းနဲ့ မိမိတို့မိသားစုဘဝတွေကို အစ္စလာမ့်နည်းကျ ရပ်တည်နိုင် ရေးကြိုးပမ်းပေးခြင်းတို့ပဲဖြစ်ပါတယ်။ ပြီးတော့ ကျွန်တော် တို့အားလုံးသိတဲ့အတိုင်း အပင်တစ်ပင်ဟာ အမြစ်ကောင်းမှသာ ၎င်းအပင်ရဲ့ရှင်သန်ရပ်တည်မှုဆိုတာ ဖြစ်နိုင်သလို အသီးအပွင့်တွေကလည်း

ဝေဆာနိုင်မှာ ဖြစ်ပါတယ်။ ဒီတိုင်းပဲ မွတ်စ်လင်မ်အမျိုး သမီးတွေဆိုတာက အစ္စလာမ့်ပတ်ဝန်းကျင် သစ်ပင်ကြီးရဲ့ အမြစ်တွေဖြစ်ကြပါတယ်။ ဒါကြောင့် ကျွန်တော်ဟာ ဤ စာအုပ်ငယ်လေးကို (**မွတ်စ်လင်မ်အမျိုးသမီး၏ ဂုဏ်ရည် များ**)ဆိုတဲ့ ခေါင်းစဉ်တပ်ပြီး အလ္လာဟ်အရှင်ရဲ့ အကူအညီ ဖြင့် ပြုစုခဲ့ပါတယ်။ ဒီခေါင်းစဉ်ကို ရွေးချယ်ရခြင်းရဲ့ အဓိက အကြောင်းအရင်းမှာ (အချို့သော မွတ်စ်လင်မ် အမျိုးသမီး များသည် အစ္စလာမ်ကို ဂဃနဏ သိနားလည်မှု မရှိဘဲ သာသနာ့နောက်လိုက်ခြင်းဆိုတဲ့ ခေါင်းစီးအောက် ကနေ ခေတ်နောက်ကျခြင်းရဲ့ အစွန်းတစ်ဖက်ကိုရောက်ရှိ နေကြ တယ်။ တစ်ဖက်မှာလည်း အချို့သောအမျိုးသမီးတွေက ခေတ်မီခြင်းဆိုတဲ့ ခေါင်းစဉ် လှလှလေးနဲ့ တရားတော်ရဲ့ သွန်သင်ဆုံးမမှုတွေကို လိုက်နာကျင့်ကြံမှု မပြုဘဲ စည်းလွတ်ဝါးလွတ် ဖြစ်ကာ အခြားအစွန်းတစ်ဖက်ကို ရောက်ရှိနေကြပြန်တယ်။ ဒီအစွန်းနှစ်ဖက်မှာရှိနေကြတဲ့ ကျွန်တော်တို့ရဲ့မိခင်မွန်တွေနဲ့ နှမငယ်တွေကို သမာသမတ်

ကျတဲ့ လမ်းကြောင်းဆီကို ရောက်ရှိလာရေးအတွက် ကျွန်တော်ဟာ ဖော်ပြပါ ခေါင်းစဉ်ကို ရှေ့လာမယ့်အခင်း အကျင်းအတိုင်း ရေးသား ပြုစုခဲ့ပါတယ်။

၁။ မွတ်စ်လင်မ်အမျိုးသမီးနှင့် ဖန်ဆင်းရှင်အား ခဝပ်မှု ကဏ္ဍ

၂။ မွတ်စ်လင်မ်အမျိုးသမီးနှင့် တစ်ကိုယ်ရည်ဘဝ

၃။ မွတ်စ်လင်အမျိုးသမီး၏ ကိုယ်ကာယ အလှအပ ဆင်မြန်းမှုကဏ္ဍ

၄။ မွတ်စ်လင်မ်အမျိုးသမီး၏ ဉာဏစွမ်းရည် ကဏ္ဍ

၅။ မွတ်စ်လင်မ်အမျိုးသမီးနှင့် မိဘဝတ္တရားကဏ္ဍ

၆။ မွတ်စ်လင်မ်အမျိုးသမီးနှင့် ခင်ပွန်းသည် ဝတ္တရားကဏ္ဍ

၇။ မွတ်စ်လင်မ်အမျိုးသမီးနှင့် သားသမီးပြုစုပျိုးထောင်ခြင်း ကဏ္ဍ

၈။ မွတ်စ်လင်မ်အမျိုးသမီးနှင့် ဆွေးမျိုးများကြား ဆက်ဆံရေးကဏ္ဍ

၉။ မွတ်စ်လင်မ်အမျိုးသမီးနှင့် သားမက်များကြား ဆက်ဆံရေးကဏ္ဍ

၁၀။ မွတ်စ်လင်မ်အမျိုးသမီးနှင့် ပတ်ဝန်းကျင်ကဏ္ဍ

ဤသို့ ရေးသားပြုစုရခြင်းမှာ ကျွန်တော်ဟာ နှလုံးသည်းပွတ်ထဲကနေ မွတ်စ်လင်မ်အမျိုးသမီးတွေကို နှစ်နှစ်ကာကာတန်ဖိုးထားလေးစားမှုရှိတဲ့ အတွက်ကြောင့်ပဲ ဖြစ်ပါတယ်။ ပြီးတော့ အစ္စလာမ်သာသနာတော်နှင့် အစ္စလာမ့်ရှေ့ခေတ်တွေက ပုံဖော်ထားတဲ့ မွတ်စ်လင်မ်အမျိုးသမီးတို့ရဲ့ ဂုဏ်ရည်ကို ပေါ်လွင်စေဖို့အတွက် ရည်ရွယ်ပြီး ရေးသားခဲ့ခြင်း ဖြစ်ပါတယ်။ ထို့အတွက်ကြောင့် မွတ်စ်လင်မ်အမျိုးသမီးတို့ရဲ့ မွန်မြတ်လှတဲ့ ဂုဏ်ရည်ပေါ်လွင်စေရန် အာယသ်တော်၊ ဟဒီးစ်တော်တွေကို တတ်စွမ်းနိုင်သမျှ မှီငြမ်းကိုးကားခဲ့ပါတယ်။ ဘာကြောင့်လဲဆိုတော့ သမိုင်းမှာ ဘယ်အမျိုးသမီးမှ မရရှိဖူးတဲ့ အမျိုးသမီးအခွင့်အရေးကို ဒီသာသနာတစ်ခုတည်းကပဲ ပေးစွမ်းနိုင်တဲ့အတွက်ကြောင့်ပါပဲ........ ဆန္ဒမွန်ဖြင့် ......ဖိုင်ဆွလ်-အလ်ကောင်စရီ- (ဝါးခယ်မ)

# မွတ်စ်လင်မ်အမျိုးသမီးနှင့် သူမ၏ဖန်ဆင်းရှင်အား ခဝပ်ကိုးကွယ်မှုကဏ္ဍ

## မှတ်သားလိုက်ပါ နှမငယ်.........

မွတ်စ်လင်မ်အမျိုးသမီးတို့ရဲ့ တစ်မူထူးခြားတဲ့ ဂုဏ်ရည်ဟာ အလ္လာဟ်အရှင်မြတ်သခင်ကို နက်ရှိုင်းစွာ သက်ဝင်ယုံကြည်ခြင်းပဲ ဖြစ်ပါတယ်။ လောကတစ်ခွင် ဖြစ်ပျက်လေသမျှအရာရာတိုင်းဟာ ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်ရဲ့သတ်မှတ်ချက်ကြောင့်သာဖြစ်တည်လာတယ်လို့ အပြည့်အဝလက်ခံယုံကြည်ခြင်းပဲ ဖြစ်ပါတယ်။ ထို့နောက် အလ္လာဟ်အရှင် သတ်မှတ်ထားတဲ့ အရာတွေဟာ မုချကြုံကြိုက်ရမှာဖြစ်ပြီး အလ္လာဟ်အရှင် မသတ်မှတ်ထားတဲ့ အရာတွေဟာ ဘယ်သောအခါမျှ ကြုံကြိုက်ရမည်မဟုတ်ကြောင်းကို နှလုံးသွင်းခြင်းပဲ ဖြစ်ပါတယ်။ ဤလောကမှာ မှန်ကန်တဲ့လမ်းကို လျှောက် ပြီး မွန်မြတ်တဲ့ ကိုယ်ကျင့်သီလတွေကို ဆောင်ကျဉ်း ခြင်းဟာ မွတ်စ်လင်မ် အမျိုးသမီးတို့ရဲ့ တာဝန်ဖြစ်ပါတယ်။ ထို့ကြောင့် ဤ

ကောင်းမွန်လှတဲ့ ကိုယ်ကျင့်တရားတွေကို ဆင်မြန်းဖို့ရာ အချို့သောကျင့်ဆောင်ရမယ့် တာဝန် ဝတ္တရားတွေကို လိုက်နာဖို့ လိုအပ်ပါတယ် နှမငယ်...

## မွတ်စ်လင်မ်အမျိုးသမီးတိုင်းဟာ မိမိရဲ့ဖန်ဆင်းရှင်အပေါ် ပြည့်ဝစွာ အီမာန်သက်ဝင်ယုံကြည်ပြီး အီမာန်ရဲ့ ဝတ္တရားတွေကို ကျေပွန်ရမှာပါ......

အီမာန်ရဲ့ ဝတ္တရားတွေအနက်မှ နှမငယ်လိုက်နာရမယ့် အချက်တွေကတော့ နှမငယ်ရဲ့ ကောင်းမှုကောင်းရာကြိုးပမ်းမှုတွေကို အလ္လာဟ်အရှင်ဟာ အချည်းအနှီး ပြုမှာ မဟုတ်ကြောင်း နှလုံးသွင်းရပါမယ်။ နှမငယ်ရဲ့ နှစ်ဘဝ နှစ်ဌာန အောင်မြင်မှုဟာ အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်တွေကို ဦးထိပ်ထားနာခံခြင်းပဲဖြစ်ပါတယ်။ ထို့အတူ အရှင့် အမိန့်တော်တွေကို မျက်ကွယ်ပြုမှုဟာ နှမငယ်အတွက် ပျက်စီးဆုံးရှုံးမှုသာရှိသည်ကို အပြည့်အဝ ယုံကြည်ပါ နှမငယ်... ဘယ်လောက်ပဲဘဝက ခက်ထန်နေပါစေ အလ္လာဟ်အရှင့်ရဲ့ အမိန့်တော်တွေကို လိုက်နာတဲ့နေရာမှာ

ပေါ့လျော့မှုမဖြစ်ပါစေနဲ့ နှမငယ်... ကျွန်တော်တို့ရဲ့ မိခင်မွန်ဟာဇရသ် ဟာဂျိရာ(عَلَيْهَا ٱلسَّلَامُ)သမခင်မနှင့် တမန်တော်အဗ္ဗရာဟီးမ်(عَلَيْهِ ٱلصَّلَاةُ وَٱلسَّلَامُ)ကြား ဖြစ်ခဲ့တဲ့ အဖြစ်အပျက်လေးကို သတိရလိုက်ပါ နှမငယ်... တစ်ချိန်က တမန်တော်အဗ္ဗရာဟီးမ်ဟာ မိမိရဲ့သားဖြစ်သူ ဟာဇရသ်အစ္စမာအီးလ်နဲ့ ဇနီးဖြစ်သူ ဟာဇရသ်ဟာဂျိရာသခင်မကို အရှင့်အမိန့်ဖြင့် မက္ကာဟ်မှာ ထားခဲ့ပြီး (ဆီးရီးယားနိုင်ငံကိုပြန်ဖို့) ကျောခိုင်းထွက်ခွာသွားတယ်။ ထိုအချိန်မှာ သခင့်နောက်ကို ဇနီးသည်ဖြစ်သူ ဟာဂျိရာသခင်မက လိုက်၍မေးတယ်။ “အိုး-အိဗ္ဗရာဟီးမ်သခင် လူသူကင်းမဲ့တဲ့ ဒီတောင်ကြားဒေသတစ်ခုမှာ ကျွန်မတို့ကိုထားပြီး ဘယ်သွားမလို့လဲ”လို့ သူမက သခင့်ကို အဖန်တလဲလဲ မေးနေပေမယ့် သခင်ကတော့ သူမဘက်ကို လှည့်မကြည့်ခဲ့ပါ။ အဲ့ဒီအခါမှာ သခင်မက နဗီကြီးကို “အလ္လာဟ်အရှင်မြတ်က ရှင့်ကို ဒီလိုလုပ်ဖို့ အမိန့်ပေးတာလား?”လို့ မေးလိုက်တော့ “ဟုတ်တယ်” လို့ အဖြေပြန်ပေးတယ်။ ဒီတော့ ဟာဂျိရာသခင်မက “ဒါဆိုရင်

အရှင်မြတ် ကျွန်မတို့ကို ပျက်စီးစေမှာ မဟုတ်ဘူး”လို့ ပြောဆိုတော်မူခဲ့တယ်။ (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်-၃၃၆၄)

ကျွန်တော်တို့ရဲ့ မိခင်မွန်ကြီး ဟာဇရသ်ဟာဂျိရာ သခင်မရဲ့ ထိုကဲ့သို့ လိုက်လံမေးမြန်းရခြင်းမှာ မိမိခင်ပွန်း သည်ရဲ့ လုပ်ဆောင်မှုဟာ သူ့စိတ်အလိုကျ မဟုတ်ဘဲ အလ္လာဟ်အရှင်ရဲ့ အမိန့်ကြောင့်သာ ဖြစ်ကြောင်း သေချာ စေဖို့ရာ ဖြစ်ပါတယ်။ ထိုသို့ သခင်မကြီးဟာ ဖြစ်ကြောင်း ကုန်စင် သိရှိပြီးနောက် ခံစားနေရတဲ့ ခံစားချက်တွေဟာ တဖြည်းဖြည်း ပျောက်ကွယ်လာပါတော့တယ်။ ထို့နောက် ဟာဇ ရသ်အဗ္ဗရာဟီးမ် (عَلَيْهِ ٱلصَّلَاةُ وَٱلسَّلَامُ) ကိုသွားခွင့်ပြုလိုက် တယ်။ အကယ်၍ သခင်မကြီးဟာ အလ္လာဟ်အရှင့်ပေါ် ယုံပုံအားကိုးမှု၊ သက်ဝင်ယုံကြည်မှု မမှန်ကန်ခဲ့ပါက ထို အခြေအနေမျိုးမှာကျရှုံးသွားခဲ့မှာပါ။ ပြီးနောက် ကျွန်တော် တို့ရဲ့ နှလုံးသည်းပွတ်အတွင်းမှာ ယခုအချိန်ထိ သခင်မကြီး ရဲ့ ပုံရိပ်တွေ ကျန်ရှိနေမှာ မဟုတ်တော့သလို ကျွန်တော်တို့ ဟဂ်ျနှင့်အွမ္မရာဟ်ပြုရာ၌လည်း သခင်မကြီး ပြုလုပ်ခဲ့သလို

ဆွဖာနှင့်မရ်ဝါကြားမှာ "စအီ"ပြုပြေးလွှားမှု လုပ်ရပ်ကို လိုက်လံ အကောင်အထည်ဖော် လုပ်ဆောင်ဖြစ်တော့မှာ လည်း မဟုတ်ပါဘူး။ ယခုအခါ ကျွန်တော်တို့ ဒီလို "စအီ" ပြုလုပ်နေရတာဟာ သခင်မကြီးရဲ့ အလ္လာဟ်အရှင်အပေါ် ယုံပုံအားကိုးမှုကြောင့်သာ ဖြစ်ပါတယ်။

## အီမာန်ရဲ့ ဝတ္တရားများအနက်မှ နမငယ် လိုက်နာရမယ့် အချက်တွေကို ပြောပြပါမယ်...

အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်တော်တွေကို စိတ်ရော ကိုယ်ပါ ကျေနပ်နှစ်သက်စွာ လိုက်နာပါ နမငယ်.......

အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်တော်တွေကို ဘယ်သူမှ ဟန့်တားနိုင်သူ မရှိပါဘူး နမငယ်.....

အလ္လာဟ်အရှင်မြတ်ရဲ့အမိန့်တော်တွေကို စိတ်ရော ကိုယ်ပါ လိုက်နာခြင်းဟာ ပြည့်ဝတဲ့ အီမာန် သက်ဝင် ယုံကြည်မှုလက္ခဏာထဲမှာ ပါဝင်ပါတယ်။ အလ္လာဟ်အရှင် ရဲ့ သတ်မှတ်ချက်များကို စိတ်ရောကိုယ်ပါ ကျေနပ် နှစ်သက်သူနှင့် ပတ်သက်ပြီး ကိုယ်တော်မြတ် (ﷺ)

က ပုံဖော်မိန့်ဆိုထားတဲ့ ဟဒီးစ်တော်ကို ဖတ်ရှုလိုက်ပါ နှမငယ်... "မွတ်စ်လင်မ်ရဲ့ ကိစ္စရပ်တိုင်းဟာ အားကျစရာပင်... မွတ်စ်လင်မ်ရဲ့ ကိစ္စရပ်တိုင်းဟာ ကောင်းခြင်းများနှင့် အတိပြီး နေပါတယ်။ စိတ်ချမ်းသာစရာ တစ်စုံတစ်ရာ ကြုံကြိုက် ရပြီဆိုရင် အလ္လာဟ်အရှင်မြတ်ကို ကျေးဇူးတင် ချီးမွမ်းမှုပြုတယ်။ ဒါဟာလည်း သူ့အတွက် ကောင်းခြင်း ပါပဲ။ ဒုက္ခတစ်ခုခု ကြုံကြိုက်ရပြီဆိုတော့ မြဲသိပ်သည်းခံတယ်။ ဒါဟာလည်း သူ့အတွက် ကောင်းခြင်းပါပဲ။" လို့ ကိုယ်တော်မြတ်(صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَ)က မိန့်တော်မူပါတယ်။

(မွတ်စ်လင်မ် ကျမ်း ဟဒီးစ်နံပါတ်-၂၉၉၉)

ထို့အတွက်ကြောင့် မိမိကိုယ် မိမိ အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းခြင်း၊ ခန္တီတရားထားခြင်းတွေမှာ အလေ့အကျင့်ပြုပါနှမငယ်... ဆွဟာဘီယဟ်သခင်မကြီး ဟဇရသ် သမာရဓ်(رَضِيَ ٱللَّٰهُ عَنْهَا)သခင်မမှာ နှမငယ် အတွက် ကောင်းမွန်လှတဲ့ စံနမူနာရှိပါတယ်။ သခင်မကြီးဟာ အစ္စလာမ် သာသနာကို လက်မခံခင်က အကိုတော်ဖြစ်သူ သေဆုံး

သွားတဲ့အတွက်ကြောင့် လောကတစ်ခွင်ကို ဝမ်းနည်းခြင်း ကဗျာလင်္ကာတွေနဲ့ ငိုကျွေးစေခဲ့တယ်။ ဒါပေမဲ့ သခင်မကြီး အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ပြီး နောက်မှာ တော့ မိမိရဲ့သားတော်(၄)ပါးကို ကာဒေစီယဟ်စစ်ပွဲမှာ ပါဝင်စေခဲ့တယ်။ ထို့နောက် သခင်မကြီးဆီသို့ သူမရဲ့ သားတော်(၄)ပါး ရှဟီးဒ် ဖြစ်သွားကြောင်း သတင်းရောက်ရှိ လာတဲ့အခါမှာ သခင်မဟာ မျက်လုံးအစုံကို မှိတ်ပြီး ဦးညွှတ်ကာ (إِنَّا لِلّٰهِ وَإِنَّا إِلَيْهِ رَاجِعُوْنَ) လို့ ရွတ်ဖတ်တော်မူခဲ့ တယ်။ ပြီးနောက် “ငါ့ရဲ့သားတော်လေးပါးကို ရှဟာဒသ်ဘွဲ့ ပေးခြင်းဖြင့် ငါ့အား ဂုဏ်ပေးတော်မူသော အလ္လာဟ်အရှင် မြတ်ကို ချီးမွမ်းထောမနာပြုပါတယ်။ ထို့ပြင် အလ္လာဟ် အရှင်မြတ်ဟာ ငါ့ကို သူတို့နဲ့အတူ ဂျန္နသ်သုခဘုံမှာ ဆုံစည်း ပေးဖို့ မျှော်လင့်ပါတယ်”လို့ ပြောကြားခဲ့တယ်။

(အလ် အိဆွာဗာဟ် ကျမ်း)

ထို့နောက် သခင်မကြီးဟာ မိမိရဲ့ မုဆွလ္လာဟ်သို့ သွားပြီး နမားဇ်ဝတ်ပြုကာ အလ္လာဟ်အရှင်မြတ်ထံမှ

"ဆွဗရ်" သည်းခံတရားကို တောင်းခံခဲ့တယ်။ ဒီ အဖြစ် အပျက်ကနေ သခင်မကြီးသမာရဗ်က မွတ်စ်လင်မ် အမျိုးသမီးတို့ ဂုဏ်ရည်ကို သရုပ်ဖော် ပြသသွားတာ ဖြစ်ပါတယ်။

**မွတ်စ်လင်မ်အမျိုးသမီးဟာ ဖန်ဆင်းရှင်ရဲ့ အမိန့်ကို တစ်သဝေမတိမ်း လိုက်နာကျင့်သုံးသူဖြစ်ပါတယ်။**

ထို့အတွက်ကြောင့် သူစိမ်းတစ်ရံဆံ အမျိုးသား တစ်ဦးနဲ့ နှစ်ယောက်တည်း တွေ့ဆုံခြင်းကို ရှောင်ရှားပါ နမငယ်...

အမျိုးသမီးတစ်ဦးနဲ့ သူစိမ်းအမျိုးသားတစ်ဦးတို့ နှစ်ယောက်တည်း တွေ့ဆုံခြင်းကို (ဟရာမ်)ဖြစ်တယ်လို့ ပညာရှင်များ တစ်ညီတစ်ညွတ်ထဲ ဆုံးဖြတ်ထားပါတယ်။ ထိုအမိန့်ပညတ်ချက်ကို ပညာရှင်များက အောက်ဖော်ပြပါ ဟဒီးစ်တော်အား အခြေခံပြီး သတ်မှတ်ပြဌာန်းခဲ့ခြင်း ဖြစ်ပါတယ်။ ၎င်းဟဒီးစ်မှာ "မည်သည့် အမျိုးသမီးမျှ မဟ်ရမ် မပါဘဲ သူစိမ်းအမျိုးသားနှင့် နှစ်ယောက်တည်း

မတွေ့လေနှင့်။ ထို့နောက် မည်သည့်အမျိုးသမီးမျှ မဟ်ရမ် မပါဘဲ ခရီးမထွက်လေနှင့်။ ထိုအခါ ပုဂ္ဂိုလ်တစ်ဦးက ထ ရပ်ပြီး "အို-အလ္လာဟ့်တမန်တော် ကျွန်တော်မျိုးဟာ စစ်ပွဲတစ်ခုအတွက် နာမည်စာရင်းသွင်းထားပြီး ဖြစ်ပါ တယ်။ တစ်ဘက်မှာလည်း ကျွန်တော်မျိုးရဲ့ ဇနီးသည်က ဟဂ်ျပြုဖို့ ဆုံးဖြတ်ထားပြီး ဖြစ်နေပါတယ်။ သို့ရှိရာ ကျွန်တော်မျိုး မည်သို့ဆောင်ရွက်ရပါမလဲ?"ဟု လျှောက် ထားတယ်။ ထိုအခါ ကိုယ်တော်မြတ်က အသင် ပြန်သွားပြီး အသင့်ဇနီးသည်နှင့်အတူ ဟဂ်ျပြုလုပ်လိုက်ပါ"။

(ဗိုခါရီ ကျမ်း ဟဒီးစ်နံပါတ်-၅၂၃၃)

ထို့နောက် အမျိုးသမီးတစ်ဦးရဲ့ မဟ်ရမ်ဆိုတာ ထိုသူမရဲ့ ဖခင်၊ အကိုအရင်း၊ မောင်အရင်း၊ ဦးလေးအရင်း များကဲ့သို့ အမြဲတမ်းအဖို့ သူမနှင့် နေကာဟ် မပြုပိုင်သူများ ကို ခေါ်ဆိုပါတယ်။ သူစိမ်းအမျိုးသားဆိုတာ သူမနဲ့ နေကာဟ်ပြုပိုင်သူကို ခေါ်ဆိုပါတယ်။ **(ဒီနေရာမှာသတိပြု ရမယ့် အချက်တစ်ချက်က ခုခေတ်မှာ အချို့သောသူမ**

တွေက ခဲအိုဖြစ်သူကို မဟ်ရမ်ဟု ထင်နေကြခြင်းပါပဲ။ အဲဒါဟာ လုံးဝမှားယွင်းပါတယ်။ ခဲအိုဟာ လုံးဝ (လုံးဝ) မဟ်ရမ်မဟုတ်ပါ။) ထိုအမျိုးသားများဟာ သူမနှင့် ဆွေမျိုးတော်စပ်နေပါစေ သူမရဲ့ မဟ်ရမ်များ မ ဟုတ်ကြပေ။ အထူးသဖြင့် ခဲအိုနှင့်မတ်ဟာ သူမရဲ့ မဟ်ရမ် အမျိုးသားစာရင်းတွင် လုံးဝ(**လုံးဝ**) မပါဝင်ပေ။ ဒီအတွက် ကြောင့်ပဲ ကိုယ်တော်သခင်က ဟဒီးတော်တစ်ခုမှာ "ခဲအိုနှင့် မတ်ဟာ သေခြင်းတရားလိုပါပဲ"ဆိုပြီး ၎င်းခဲအိုနှင့် မတ်ကို သေခြင်းတရားဖြင့် ပုံပမာခိုင်းနှိုင်းပြသထားပေးခြင်းဖြစ်တယ်။ (ဗိုခါရီကျမ်း ဟဒီးနံပါတ်-၅၂၃၂)

ထို့နောက် ခဲအိုနှင့်မတ်ဟာ သူ့အကိုရဲ့အိမ်ကို တံခါးမရှိ ခေါ်းမရှိ ဝင်ထွက်သွားလာကြတဲ့ အတွက်ကြောင့် မရီးဖြစ်သူနဲ့ မလိုလားအပ်တဲ့ အရောတဝင်ပြုမှုများ ဖြစ်ပွားလာသောအခါ မလိုလားအပ်တဲ့ ကိစ္စရပ်တွေဖြစ်မည်ကို စိုးရိမ်ရလို အဲ့ဒီလို ပမာနှိုင်းပြီး သတိပေးခဲ့တာ ဖြစ်ပါတယ်။ သို့ပေမယ့်လည်း မွတ်စ်လင်မ်အမျိုးသမီးဟာ အများသူငါ

အပေါ့ရိက သဘောထားပြီး ကျူးလွန်ကြတဲ့ အဲ့ဒီပြစ်မှုမျိုး တွေကနေ သတိပြုရှောင်ကျဉ်ကြပါတယ်။ ပြီးတော့ မဟ်ရမ် အမျိုးသားတစ်ဦးမပါဘဲ ခရီးတစ်ခုခုကို မထွက်ပါနဲ့ နှမငယ်... ဘာကြောင့်လဲဆိုရင် ခရီးဆိုတာ အခက်အခဲ တစ်ခုမဟုတ်တစ်ခုနဲ့ ကြုံကြိုက်ရတတ်တယ်။ တစ်ခါ တစ်ရံ အန္တရာယ်တွေနဲ့လည်း ကြုံရနိုင်တယ်။ ဒါကြောင့်မို့ ထိုအခက်အခဲ အန္တရာယ်တွေကို ဝိုင်းကူဖြေရှင်းပေးမယ့် မဟ်ရမ်အမျိုးသားတစ်ဦးမပါဘဲ ခရီးမထွက်ပါနဲ့ နှမငယ်... ထို့အတွက်ကြောင့်ပဲ ကိုယ်တော်မြတ်(ﷺ)က မိမိ ရဲ့ ဟဒီးစ်တော်မှာ “အမျိုးသမီးတစ်ဦးက သုံးရက် သုံးည အကွာအဝေးရှိတဲ့ ခရီးလမ်း (၄၈-မိုင်ခရီး)ကို မဟ်ရမ် **(အမြဲ အတွက် နေကာဟ်မပိုင်သူ)** တစ်ဦးဦးမပါဘဲ ခရီးထွက်ပိုင် ခွင့်မရှိပေ”လို့ မိန့်မြွက်ထားခြင်း ဖြစ်ပါတယ်။

(ဗိုခါရီကျမ်း ဟဒီးစ် နံပါတ်-၁၀၈၆)

## မွတ်စ်လင်မ်အမျိုးသမီး နှင့် တစ်ကိုယ်ရည်ဘဝ

မွတ်စ်လင်မ်အမျိုးသမီးဟာ သူမရဲ့ ဘဝရှင်သန်နေထိုင်ရာမှာ အခြားသူတွေနဲ့ မတူတစ်မူထူးခြားတဲ့ပုံစံနဲ့ ရှင်သန်ကြီးပြင်းဖို့ အစ္စလာမ်သာသနာတော်က တိုက်တွန်းထားပါတယ် နှမငယ်... မွတ်စ်လင်မ်အမျိုးသမီးဟာ သူမရဲ့ ဘဝပုံရိပ်ကို အစ္စလာမ့်နည်းကျ ခြယ်သပါတယ်။ ဒါကြောင့် အစ္စလာမ်နည်းကျရှင်သန်ဖို့ရာ မိမိဘဝကို ဘယ်လို ခြယ်သမလဲ? နှမငယ် ...

## မွတ်စ်လင်မ်အမျိုးသမီး၏ ကိုယ်ကာယအလှအပဆင်မြန်းမှုကဏ္ဍ

ကိုယ်ခန္ဓာအလှအပကို ထိန်းသိမ်းခြင်းနှင့် ကျန်းမာရေးလိုက်စားခြင်းဟာ အစ္စလာမ်တရားတော်က တိုက်တွန်းထားတဲ့ အချက်တစ်ချက် ဖြစ်ကြောင်း နှလုံးသွင်းပါ နှမငယ်... ထို့ကြောင့် ဒီအချက်တွေကို ဂရုပြုပါ...

## စားသောက်ရာမှာ သင့်တင့်မျှတစွာ စားသောက်တတ်အောင် အကျင့်လုပ်ပါ နှမငယ်...

စားသောက်ရာမှာ အလွန်အကျူး စားသောက်ခြင်းဟာ မကောင်းသလို လိုအပ်သလောက် မစားခြင်းဟာလည်း မကောင်းပါ။ ဒါ့ကြောင့်စားသောက်ရာမှာ အလယ်အလတ် လမ်းစဉ်ကို ရွေးချယ်လိုက်ပါ နှမငယ်... ဒီမြေပထဝီမှာ အလှအပနဲ့ ကျန်းမာရေးကို လူတိုင်း လိုချင်ကြပါတယ်။ တစ်နေ့လုံး ထိုင်းထိုင်းမှိုင်းမှိုင်း ဖြစ်နေမှာကို ဘယ်သူမှ မကြိုက်ကြပါဘူး။ ဒီအလှအပ၊ ကျန်းမာရေးနဲ့ သွက်လက် ဖြတ်လက်မှုအားလုံးဟာ ငယ်ရွယ်စဉ်ကာလမှာ စားသုံးတဲ့ အစားအသောက်တွေပေါ် မူတည်ပါတယ်။ ထို့အတွက်ကြောင့်ပဲ ကိုယ်တော်မြတ်(ﷺ) က "မည်သူတစ်ဦး တစ်ယောက်မျှ ဝမ်းအဝ မစားသောက်သင့်ပါ။ အကယ်၍ ဝမ်းအဝ စားမည်ဆိုပါကလည်း ဝမ်းဗိုက်ရဲ့ သုံးပုံပုံတစ်ပုံကို အစားအသောက်တွက်ထားပါ။ ကျန်သုံးပုံ နှစ်ပုံကို ရေ သောက်ဖို့နှင့် မိမိသက်တောင့်သက်သာ ရှိဖို့အတွက်

ချန်လှပ် ထားပါ။”လို့ မိန့်မြွက်တော်မူပါတယ်။(သရ် မေဇီကျမ်း ဟဒီးစ်နံပါတ်-၂၃၈၀)

## အစ္စလာမ့်ပတ်ဝန်းကျင်ထဲကို စိမ့်ဝင်လာတဲ့မကောင်းသော အကျင့်ဓလေ့တွေကနေ ဝေးဝေးနေပါ နှမငယ်...

အချိန်ဖြုန်းခြင်း၊ အချည်းအနှီး ကိစ္စရပ်များ၌ အချိန် ကုန်ဆုံးခြင်း၊ ညဥ့်နက်တဲ့အထိ ညမအိပ်ဘဲနေခြင်း စတဲ့ မကောင်းသော အကျင့်ဓလေ့တွေကို ရှောင်ရှားပါ။ ဒီ အပြင် စောစောအိပ်ပြီး စောစောထပါ။ ထိုသို့ပြုကျင့်ခြင်းဟာ ကိုယ်ခန္ဓာကို တစ်နေ့တာ လန်းဆန်းတက်ကြွစေပါတယ်။ ကိုယ်ခံအားကို ညဥ့်မအိပ်ဘဲ နေခြင်းဖြင့် မလျော့ ကျပါစေနဲ့ နှမငယ်...

## မိမိရဲ့ ခံတွင်းအနံ့အသက်ကို ဂရုစိုက်ပါ နှမငယ်...

မည်သူတစ်ဦးတစ်ယောက်မျှ နှမငယ်ရဲ့ ခံတွင်းက နေ အနံ့ဆိုးတစ်စုံတစ်ရာ မရှူရှိုက်မိပါစေနဲ့။ ဒါ့ကြောင့် အစာစားပြီးတိုင်း မိမိသွားများကို သွားတိုက်တံဖြင့် လည်း

ကောင်း၊ မစ်ဝါးက် တံပူဖြင့်လည်းကောင်း သန့်ရှင့်ရေး ပြုပါ။ အမြဲတစေ သွားကိုဂရုစိုက်ပါ။ သွားကိုက်ဝေဒနာ မခံစားရရင်တောင် အနည်းဆုံးတစ်နှစ်မှာ တစ်ကြိမ် လောက်ဖြစ်စေ သွားဆရာဝန်ထံသွားပြီး မိမိသွားကို စစ်ဆေးခိုင်းပါ။ သို့မှသာ သွားကို စနစ်တကျ ကောင်းမွန် ကျနစွာ ထိန်းသိမ်းနိုင်မှာ ဖြစ်ပါတယ်။ ဒီကိစ္စနဲ့ ပတ်သက် ပြီး နမယ်အတွက် မိခင်မွန်ကြီး ဟဇရသ် အာအေရှဟ် (رَضِيَ ٱللَّهُ عَنْهَا)မှာ ကောင်းမွန်လှပတဲ့ စံနမူနာရှိပါတယ်။ ကျွန်တော်တို့ရဲ့ မိခင်မွန်ကြီး ဟဇရသ် အာအေရှဟ် (رَضِيَ ٱللَّهُ عَنْهَا)သခင်မကြီးဟာ မိမိရဲ့ သွားနဲ့ပတ်သက်ပြီး အလွန် ဂရုစိုက်တော်မူတဲ့ သခင်မကြီးဖြစ်တယ်။ အမြဲတစေ မိမိ သွားကို သန့်ရှင်းရန် ပျင်းရိမှု အလျင်းမပြုခဲ့ပါ။ ဟဇရသ် အာအေရှဟ် သခင်မ၏ အကြောင်းအရာတစ်ခု ခိုင်မာ တိကျတဲ့ ဆင့်ပြန်ချက်တွေနဲ့ လာရှိထားပါတယ်။ အဲ့ဒီဆင့် ပြန်ချက်ဟာ မွတ်စလင်မ်ကျမ်းထဲမှာလည်း လာရှိပါတယ်။ ဟဇရသ် အူရ်ဝါးဟ် (رَضِيَ ٱللَّهُ عَنْهُ) သခင်ထံမှ ဆင့်ပြန်ချက်

တစ်ခု ဤသို့လာရှိပါတယ်။ “ဟဇရသ် အာအေရှဟ် (رَضِيَ ٱللَّٰهُ عَنْهَا) သခင်မကြီးဟာ ‘မစ်ဝါးကိ်’တံပူစားလွန်းတဲ့ အတွက်ကြောင့် သခင်မကြီးရဲ့ ပျို့သံများကိုပါ ကျွန်ုပ် ကြား ရပါတယ်။”(မွတ်စလင်မ်ကျမ်း ဟဒီးစ်နံပါတ် -၁၂၅ ၅)

## မိမိရဲ့ဆံကေသာကို ဂရုစိုက်ပြီး ၎င်းဆံကေသာရဲ့ ဝတ္တရားများကို ကျေပွန်ပါ နှမငယ်...

အမျိုးသမီးရဲ့ အလှတရားတွေထဲမှာ ဆံပင်ဟာလည်း အဓိကနေရာကနေ ပါဝင်ပါတယ် နှမငယ်... ထို့ကြောင့် မိမိဆံပင်ကို ထိန်းသိမ်းပါ။ ပြင်ဆင်ပါ။ ထိုသို့ ပြုလုပ်ခြင်း ဟာ စွဲဆောင်မှုရှိစေတဲ့ အရာတွေအနက်မှ တစ်ခုဖြစ်ပါ တယ်။ ဟဇရသ်အဗူဟုရိုင်ရာဟ် (رَضِيَ ٱللَّٰهُ عَنْهُ) သခင်ကလည်း ဆံပင်နဲ့ ပတ်သက်ပြီး ကိုယ်တော်မြတ်ရဲ့ မိန့်မြွက်ချက် တစ်ခုကို ဤကဲ့သို့ ဆင့်ပြန်ထားပါတယ်။ “ဆံပင်ရှိသူဟာ မိမိဆံပင်ရဲ့ ဝတ္တရားတွေကို ပေးဆပ်ပါလေ။”

(အဘူဒါဝူးဒ်ကျမ်း ဟဒီးစ်နံပါတ်-၄၁၆၃)

အစ္စလာမ့်တရားတော်အရ ဆံပင်ရဲ့ ဝတ္တရားတွေကို ပေးဆပ်ရမယ်ဆိုတဲ့ အလိုသဘောမှာ ရှရီအသ်တရားတော်က ပြသထားတဲ့ လမ်းညွှန်ချက်တွေနဲ့အညီ ၎င်းဆံပင်ကို သန့်ရှင်းစွာ ထားရှိခြင်း၊ ဆီဖြင့်ဖီးပေးခြင်း၊ အမွှေးအကြိုင် သုတ်လိမ်းပေးခြင်း၊ ဆံပင်ကို လှပတဲ့ ပုံစံသွင်းခြင်း စတဲ့ လုပ်ဆောင်ချက်များ ပြုလုပ်ခြင်းပဲ ဖြစ်ပါတယ်။

## မွတ်စ်လင်မ်အမျိုးသမီး၏ ဉာဏ စွမ်းရည်ကဏ္ဍ

အသိဉာဏ်ဆိုတာ နှမငယ်ရဲ့ အတွေးအခေါ်တို့ စုစည်းရာနေရာပဲ ဖြစ်ပါတယ်။ ထို့ပြင် ဒီအသိဉာဏ်ကပဲ ကောင်းရာညွှန်ကြား မကောင်းရာ မြစ်တားတဲ့ တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ပါတယ်။ ထို့အတွက်ကြောင့်....... **မိမိအသိဉာဏ် ဖွံ့ဖြိုးတိုးတက်အောင် ပညာသင်ယူပါ နှမငယ်...** မွတ်စ်လင်မ်အမျိုးသမီးဟာ အမျိုးသားများကဲ့သို့ မိမိအတွက် လောကီ၊ လောကုတ္တရာ နှစ်ဘဝနှစ်ဌာန အကျိုးဖြစ်စေမယ့် ပညာရပ်တွေကို ဆည်းပူးဖို့ရာ တာဝန် ရှိပါတယ်။ ကိုယ်တော်မြတ် (صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَ) ကလည်း “ပညာ

သင်ယူဆည်းပူးခြင်းဟာ မွတ်စ်လင်မ်တိုင်းအပေါ် ဖရန်တာဝန်ဖြစ်ပေတယ်”လို့ မိန့်မြွက်ထားပါတယ်။

(အဗ္ဗနု မာဂျဟ်ကျမ်း ဟဒီးစ်နံပါတ်-၂၂၄)

ဒါကြောင့် မွတ်စ်လင်မ် အမျိုးသမီးများဟာ အစ္စလာမ့်သမိုင်းရဲ့ ကနဦးကာလမှာ ပညာရဲ့ တန်ဖိုးကြီးမြတ်မှုကို ကောင်းစွာ နားလည်သိရှိခဲ့ကြပါတယ်။ ပမာအားဖြင့် တင်ပြရမယ်ဆိုပါက ဟဇရသ် အာအေရှဟ်(رَضِيَ ٱللَّٰهُ عَنْهَا) သခင်မကြီးဟာ သူမရဲ့ သက်တော်(၁၉)နှစ် မပြည့်မီကပင် ဟဒီးစ်ပညာရပ်တွင် ပြိုင်စံရှား ဖြစ်နေခဲ့ပါတယ်။ ဒါဟာ မွတ်စ်လင်မ်အမျိုးသမီးတိုင်း အားကျထိုက်တဲ့အချက် ဖြစ်ပါတယ်။ ဒါ့ပြင် မွတ်စ်လင်မ် အမျိုးသမီးတိုင်းဟာလည်း သခင်မကြီးရဲ့နောက်ကို ဖဝါးခြေထပ် လိုက်ကြရမှာ ဖြစ်တယ်။

## မွတ်စ်လင်မ်အမျိုးသမီးနှင့် မိဘ ဝတ္တရားကဏ္ဍ

မွတ်စ်လင်မ်အမျိုးသမီးရဲ့ ထူးခြားတဲ့ ဂုဏ်ရည်များအနက် တစ်ခုကတော့ မိဘနှစ်ပါးကို ဝတ်ကြီးဝတ်ငယ်

ပြုခြင်းနဲ့ ကောင်းမွန်စွာ ဆက်ဆံခြင်းပဲဖြစ်ပါတယ်။ ကုရ်အာန်ကျမ်းတော်မြတ်မှာလည်း မိဘနှစ်ပါးကို ကောင်းမွန်စွာ ဆက်ဆံဖို့ တိုက်တွန်းထားသလို ဟဒီးစ်တော်မှာလည်း တိုက်တွန်းချက်တွေ လာရှိပါတယ်။ ထို့ပြင် ကုရ်အာန်ကျမ်းမြတ်မှာ အလ္လာဟ်အရှင်မြတ်က မိမိကို သက်ဝင်ယုံကြည်မှုကပ္လာပြီးနောက် မိဘဝတ္တရားကို တစ်ဆက်တည်း ဖော်ပြထားပါတယ်။ ဒါဟာ အလ္လာဟ်အရှင်မြတ်ဘက်ကနေ မိဘနှစ်ပါးကို ဂုဏ်ပေးခြင်း၊ ၎င်းတို့အဆင့်အတန်းကို မြင့်တင်ပေးခြင်းပဲ ဖြစ်ပါတယ်။ အလ္လာဟ်အရှင်မြတ်က မိဘဝတ္တရားနဲ့ပတ်သက်ပြီး မိမိရဲ့ကျမ်းမြတ်ကုရ်အာန်မှာ ဤသို့ အမိန့်ရှိထားပါတယ်။ “အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ဆည်းကပ်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် မည်သည့်တစ်စုံတရာကိုမျှ ထိုအရှင်နှင့် တွဲဖက်နိုင်းယှဉ်ခြင်း မပြုကြကုန်လင့်။ ထိုမှတစ်ပါး အသင်တို့သည် မိဘနှစ်ပါးကို ကောင်းမွန်စွာ ဆက်ဆံပြုစုကြလေကုန်။(၄-၃၆) ဖော်ပြပါ

အာယသ်တော်ကို ကြားသိရပြီးနောက် မွတ်စ်လင်မ် အမျိုးသမီးတိုင်းဟာ မိမိတို့မိဘများရဲ့ ဝတ္တရားများကို ကျေပွန်စွာဆောင်ရွက်ရပါမယ်။ ပြီးနောက် ထိုသို့သော ဝတ္တရားကျေပွန်မှုဟာ တစ်ခဏတာ မဟုတ်ဘဲ တစ်ဘဝစာ ဖြစ်ရပါမယ်။ သို့မှသာ အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်တော် ဖြစ်တဲ့ "စင်စစ်သော်ကား ငါအရှင်မြတ်သည် မနုဿ လူသားအား ၎င်း၏ မိဘနှစ်ပါးနှင့်ပတ်သက်၍ ကောင်းမွန် စွာပြုစုရန် လေးနက်စွာ အမိန့်ပေးတော်မူခဲ့၏"။ (၂၆-၁၅) ဆိုတဲ့အမိန့်တော်ကို လိုက်နာသူဖြစ်ပါလိမ့်မယ်။

## မိဘနှစ်ပါးကို ပြုစုဆက်ဆံရာ၌ တန်းတူညီမျှ ဆက်ဆံပါ နှမငယ်...

သို့ပေမယ့် မိမိရဲ့မိခင်ကို ဖခင်ထက်ပိုပြီး ကောင်းမွန် စွာဆက်ဆံပါ။ ထိုသို့ဆက်ဆံသမှု ပြုခြင်းဟာလည်း ကိုယ်တော်မြတ်သခင်ရဲ့ မိန့်မြွတ်ချက်ကို နောက်လိုက်သမှု ပြုတဲ့ အနေနဲ့ဖြစ်ပါစေ။ မိမိရဲ့စိတ်အလိုကျ မဖြစ်ပါစေနဲ့ နှမငယ်... မိခင်မွန်ကို ဦးစားပေးပြုစု ဆက်ဆံဖို့ရာနဲ့

ပတ်သက်ပြီး ကိုယ်တော်မြတ်က မိမိထံလာရောက် မေးမြန်းသူကို ဤသို့ဖြေကြားခဲ့တယ်။ ပုဂ္ဂိုလ်တစ်ဦးဟာ အလ္လာဟ်အရှင်မြတ်ရဲ့ ရစူလ်တမန်တော်ထံ ရောက်လာပြီး လျှောက်ထားတော်မူတယ်။ "အလ္လာဟ်အရှင်မြတ်ရဲ့ ရစူလ် တမန်တော်... လူတွေထဲမှာ ကျွန်တော်ရဲ့အကောင်းဆုံး ဆက်ဆံခြင်းကို ခံထိုက်တဲ့ ပုဂ္ဂိုလ်ဟာ ဘယ်သူဖြစ်ပါ သလဲ" ကိုယ်တော်မြတ်က မိန့်တော်မူတယ်။ "အသင့်ရဲ့ မိခင် ဖြစ်တယ်" သူက ထပ်မံလျှောက်ထား မေးမြန်းတယ်။ "အဲ့ဒီနောက် ဘယ်သူပါလဲ" ကိုယ်တော်မြတ်ကမိန့်တယ်။ "အသင့်ရဲ့မိခင်ဖြစ်တယ်" သူက ထပ်မံ လျှောက်ထား မေးမြန်းပြန်တယ်။ "အဲ့ဒီနောက်ဘယ်သူပါလဲ" ကိုယ်တော် မြတ်က မိန့်တော်မူတယ်။ "အသင့်ရဲ့ဖခင်ဖြစ်တယ်။

(ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်-၅၉၇၁)

## မွတ်စ်လင်မ်အမျိုးသမီး နှင့် ခင်ပွန်းသည် ဝတ္တရားကဏ္ဍ

"ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ အမျိုးအစားအနက်မှပင် ကြင်ယာကြင်ဖက်များကို အသင်တို့အတွက် အနားယူ စိတ်ချမ်းသာမှုရရှိအံ့ငှာ ဖန်ဆင်းတော်မူခဲ့၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့စပ်ကြား၌ ချစ်ခြင်းမေတ္တာကိုလည်းကောင်း၊ အကြင်နာတရားကိုလည်းကောင်း၊ စီမံပြုလုပ်၍ ပေးသနားတော်မူခဲ့၏။ ကေန်မလွဲ ဤသည်၌ ဆင်ခြင်သုံးသပ် စဉ်းစားကြကုန်သော သူတို့အဖို့ အမှန်ပင်သက်သေ လက္ခဏာများသည် ရှိပေတည်း" (၃၀-၂၁) ဆိုတဲ့ အရှင်မြတ်ရဲ့ အာယသ်တော်ကို သေချာစွာ စဉ်းစားပါလေ နှမငယ်... ဖော်ပြပါ အာယသ်တော်၌ အလ္လာဟ်အရှင်မြတ်ဟာ နှမငယ်ကို ခင်ပွန်းသည်အတွက် စိတ်နှလုံးသား သာယာအေးချမ်းမှုရရှိဖွယ်ရာအဖြစ် ဖန်ဆင်းထားကြောင်းကို ဖော်ပြထားပါတယ်။ ပြီးနောက် အလ္လာဟ်အရှင်မြတ်ဟာ ဇနီးမောင်နှံ နှစ်ဦးကြားမှာ ချစ်ခြင်းမေတ္တာနှင့် အကြင်နာတရားကို ချပေးသနား

တော်မူကြောင်းကိုလည်း ဖော်ပြထားပါတယ်။ ထို အကြင်နာ တရားနှင့် ချစ်ခြင်းမေတ္တာပေါင်းစပ်ကာမှ မွန်မြတ်တဲ့ မွတ်စ်လင်မ်မိသားစုတစ်ခု ဖြစ်တည်လာမှာ ဖြစ်ပါတယ်။ သို့မှသာ ထိုမိသားစုက အစ္စလာမ့် လူ့ပတ်ဝန်းကျင် နန်းတော်ကြီးရဲ့ အဆောက်အအုံမှာ အုပ်ချပ်အဖြစ် ရပ်တည်လာနိုင်မှာဖြစ်တယ်။ ဒီတော့ မိသားစုတစ်စုရဲ့ အဓိက မဏ္ဍိုင်နေရာကနေ ဝင်ရောက်ပြီး မွန်မြတ်လှတဲ့ မိသားစုကို ပြုစုပျိုးထောင်ဖို့အတွက် လာမည့် ကျင့်ရန် ကျဉ်ရန်နဲ့ မိမိဘဝကို ဆင်မြန်းလိုက်ပါ နှမငယ်...

**အစ္စလာမ်သာသနာတော်က နှမငယ်ကို မိမိကြိုက်နှစ်သက်တဲ့ အမျိုးသားနဲ့ နေကာဟ် ထိမ်းမြား မင်္ဂလာပြုခွင့် ပေးထား ပါတယ်ဆိုတဲ့ အချက်ကို နှလုံးသွင်းထားပါ နှမငယ်...**

မိဘနှစ်ပါးမှာ အရွယ်ရောက်ပြီဖြစ်တဲ့ နှမငယ်ကို နှမငယ်မနှစ်သက် မလိုမလားတဲ့ အမျိုးသားနဲ့ အတင်း

အကျပ် ထိမ်းမြားပေးပိုင်ခွင့်မရှိပါဘူး။ ဒီစကားကြောင့် မိဘတွေရဲ့ ဆိုးမစကားတွေ၊ မိဘတွေရဲ့ လမ်းညွှန်ချက်တွေဟာ နှမငယ်အတွက် မလိုအပ်ဘူးလို့မထင်လိုက်ပါနဲ့။ ဘာကြောင့်လဲဆိုတော့ မိဘတွေဆိုတာ နှမငယ်ထက် အတွေ့အကြုံအရရော ဗဟုသုတအရပါပိုမို ကြွယ်ဝကြတဲ့ သူတွေမို့ဖြစ်ပါတယ်။ ဟဇရသ်ခန်ဆားအ်် (رَضِيَ ٱللَّٰهُ عَنْهَا) သခင်မကြီး လုပ်ဆောင်ခဲ့တဲ့ လုပ်ဆောင်ချက်တွေမှာ နှမငယ်အတွက် စံနမူနာတွေ၊ သင်ခန်းစာတွေ များစွာရှိပါတယ်။ အေမာမ် ဗိုခါရီ(رَحِمَهُ ٱللَّٰهُ)က သခင်မကြီးရဲ့ လုပ်ဆောင်ချက်ကို မိမိရဲ့ ကျမ်းဂန်မှာ ဤသို့ ဖော်ပြထားပါတယ်။ ဟဇရသ် ခန်ဆားအ်် (رَضِيَ ٱللَّٰهُ عَنْهَا) သခင်မက မိန့်တော်မူတယ်။ ကျွန်မရဲ့ ဖခင်က ကျွန်မအလိုမတူတဲ့ သူ့ရဲ့တူတော်မောင်နဲ့ ကျွန်မကို ထိမ်းမြားပေးခဲ့တယ်။ ဒါနဲ့ကျွန်မလည်း ကိုယ်တော်မြတ် (صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَ)ထံသွားရောက် လျှောက်ထားလိုက်တယ်။ ဒီတော့ ကိုယ်တော်မြတ်က ဖခင်ပြုလုပ်ပေးတဲ့ နေကာဟ်ကို လက်ခံလိုက်ပါလို့ ကျွန်မကို ဖျောင်းဖျပေးတယ်။ ထိုအခါ

ကျွန်မကလည်း ဖခင်ပြုလုပ်ပေးတဲ့ နေကာဟ်ကို ကျွန်မ အလိုမရှိဘူး”လို့ ပြန်ဖြေလိုက်တယ်။ ထိုအခါ ကိုယ်တော် မြတ်က” အသင်မ ကြိုက်နှစ်သက်သူနှင့် နေကာဟ်ပြုပါ လေ။ အသင်မ ဖခင်မှာ အသင်မနှင့်ပတ်သက်ပြီး အတင်း အကျပ်ပြုပိုင်ခွင့် မရှိပေ”လို့ မိန့်မြွက်တော်မူတယ်။ ထိုအခါ မှ ကျွန်မကလည်း ကိုယ်တော်မြတ် (ﷺ)ကို ဤသို့ လျှောက်တင်လိုက်တယ်။ “ကျွန်မဖခင် ပြုလုပ်ပေးတဲ့ နေကာဟ်ကို ကျွန်မ သဘောတူလက်ခံပါတယ်။ ဒါပေမဲ့ ကျွန်မ ခုလိုငြင်းဆန်လိုက်ရခြင်းဟာ တကယ်တော့ ဖခင် တွေဟာ မိမိတို့သမီးများကို ထိုသို့အတင်းအကျပ် ပြုလုပ် ပိုင်ခွင့် မရှိကြောင်းကို အခြားမွတ်စ်လင်မ် အမျိုးသမီးများ သိရှိရန် အလို့ငှာ ပြုလုပ်ရခြင်း ဖြစ်ပါတယ်။

(အဗ္ဗနမာဂျာဟ်ကျမ်း ဟဒီးစ်နံပါတ်-၁၈၇၄)

## ခင်ပွန်းသည်နှင့် သားသမီးတို့ကို ဂရုပြုအလေးထားပါနှမငယ်။ ထို့အတူ မိမိအိမ်ရဲ့ ဝေယျာဝစ္စတွေကိုလည်း အလေးထားဆောင်ရွက်ပါ နှမငယ်...

ခင်ပွန်းသည်ရဲ့ အဝတ်အစား၊ အစားအသောက်စတဲ့ သူရဲ့လိုအပ်ချက်တွေကိုပြင်ဆင် ဖြည့်ဆည်းပေးပါနှမငယ်... အထူးသဖြင့် မိမိခင်ပွန်းနဲ့ စကားပြောဆိုတဲ့နေရာမှာ ဂရုစိုက်ပြီး သူကျေနပ်ပျော်ရွှင်စေမဲ့ စကားကိုပြောဆိုပေးပါ။ နူတ်ချိုသာမှုက လူတိုင်းရဲ့ နှလုံးသည်းပွတ်ကို ဆွဲယူဖမ်းစားနိုင်ပါတယ် နှမငယ်... ဒါကြောင့် မိမိခင်ပွန်းသည်ဟာ သူဆင်းရဲပင်ဖြစ်ပါစေ သူ့ကိုပျော်ရွှင်စေမယ့် စကားလေးတွေကို ပြောပေးပါ။ သူ့ရဲ့လုပ်အားခ၊ လစာနည်းတဲ့အတွက်ကြောင့် အပြစ်တင်မှု မပြုပါနဲ့။ ထိုသို့အခက်အခဲ တစ်စုံတစ်ခု ကြုံကြိုက်ရတိုင်း ဟဇရသ်ဖွာသွေမာဟ် (رَضِيَ اللَّهُ عَنْهَا) သခင်မရဲ့ အဖြစ်အပျက်လေးကိုသတိရလိုက်ပါ။ အေမာမ်ဗိုခါရီ(رَحِمَهُ اللَّهُ)က မိမိရဲ့ ဗိုခါရီကျမ်းထဲမှာ ဤသို့ဖော်ပြထားပါတယ်။ “ဟဇရသ် အလီ(رَضِيَ اللَّهُ عَنْهُ)

သခင်ထံမှ ဆင့်ပြန်ချက်လာရှိပါတယ်။ တစ်နေ့မှာ ဖာသွေမာဟ် (رَضِيَ اللَّهُ عَنْهَا) သခင်မက ကြိတ်ဆုံ လှည့်ရတာကြောင့် (လက်နာကျင်မှုဝေဒနာကို) ခံစားရပြီး ညည်းတွားခဲ့တယ်။ ထိုအချိန်အခါက ကိုယ်တော်မြတ် (صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ) ထံမှာ သုံ့ပန်း(ကျွန်)တွေလည်း ရောက် ရှိနေပေတယ်။ ထို့အတွက်ကြောင့် ဟဇရသ် ဖာသွေမာ (رَضِيَ اللَّهُ عَنْهَا) က ကိုယ်တော်မြတ်ထံသို့ (ကျွန်)တစ်ယောက် တောင်းဖို့ရာ သွားခဲ့လေတယ်။ သို့ပေမယ့်လည်း သခင်မဟာ ကိုယ်တော်မြတ်နှင့် မတွေ့ခဲ့ပေ။ ထို့ကြောင့် မိမိလာရင်းကိစ္စနှင့် ပတ်သက်၍ ဟဇရသ် အာအေရှာ (رَضِيَ اللَّهُ عَنْهَا)သခင်မကို ပြောပြခဲ့လေတယ်။ သို့ရှိရာ ဟဇရသ် အာအေရှာ (رَضِيَ اللَّهُ عَنْهَا)သခင်မက ၎င်းအကြောင်းအရာကို ကိုယ်တော်သခင် ပြန်လာတဲ့အခါ ပြောပြလေတယ်။ ထို့ကြောင့် ကိုယ်တော်မြတ်(ﷺ)က ကျွန်တော်တို့ အိပ်ယာဝင်နချိန်မှာ ကျွန်ုပ်တို့ဆီ ကြွမြန်းလာခဲ့လေတယ်။ ထိုအခါကျွန်တော်တို့ ထဖို့လုပ်တော့ ကိုယ်တော်မြတ်(ﷺ)က “အသင်တို့နှစ်ဦး မိမိတို့နေရာမှာ

သာ နေကြပါ” ဟု မိန့်ကြားပြီး ကျွန်တော်တို့နှစ်ဦးကြား တွင် ကိုယ်တော်သခင်က ဝင်ထိုင်လေတယ်။ ထိုသို့ ကိုယ်တော်မြတ်(ﷺ)က ကျွန်တော်တို့ကြား ဝင်ထိုင်လိုက် တဲ့ အတွက်ကြောင့် ကိုယ်တော့်ခြေတော်ရဲ့ အေးစက်မှုကို ကျွန်ုပ်ရင်ဘက်၌ ခံစားရပေတယ်။ ထို့နောက် ဤသို့ မိန့်တော်မူတယ်။ “အသင်တို့နှစ်ယောက် တောင်းဆိုတာ ထက် ပိုကောင်းတဲ့အရာကို ငါကိုယ်တော် အသင်တို့ကို မပေးရ ဘူးလား?” အသင်တို့ နှစ်ယောက် အိပ်ယာဝင်ပြီဆို ရင် အလ္လာဟုအက္ကဗရ်(၃၄)ကြိမ်၊ စုဗ္ဗဟာနလ္လာဟ် (၃၃) ကြိမ်၊ အလ်ဟမ်ဒုလိလ္လာဟ် (၃၃)ကြိမ်ဖတ်ပါ။ အဲ့ဒါက အသင်တို့နှစ်ယောက် အိမ်ဖော်ရခြင်းထက် ပိုကောင်းပါ တယ်။ (ဗိုခါ ရီကျမ်းဟာဒီးဆ်နံအပါတ်-၃၇၀၅)

ဟာဇရတ်ဖာသွေမာဟ် သခင်မကြီးရဲ့ ဒီအဖြစ် အပျက်လေးမှာ နှမငယ်အတွက် အတုယူစရာ စံနမူနာ မရှိပေဘူးလား? နှမငယ်…

## ခင်ပွန်းသည်ရဲ့ အမိန့်ကိုနာခံပါ နှမငယ်...

"ခင်ပွန်းသည်ရဲ့ ကျေနပ်မှုရရှိပြီး အလ္လာဟ့်ထံ ပြန်သွားသော အမျိုးသမီးဟာ ဂျန္နသ်သုခဘုံမှာ စံမြန်းခွင့်ရ ပေမည်" ဆိုတဲ့ ကိုယ်တော်သခင်ရဲ့ မိန့်မြွက်ချက်ကို သတိ ချပ်ပါလေ။ (သိရ်မီဇီကျမ်း ဟဒီးစ်နံပါတ်-၁၁၆၁)

မွန်မြတ်တဲ့ ဇနီးသည်နဲ့ ပတ်သက်ပြီး ကိုယ်တော် မြတ် (ﷺ) မိန့်တော်မူခဲ့တဲ့ မိန့်မြွက်ချက်ကို အစဉ် အမြဲ သတိရနေပါ နှမငယ်.... ကိုယ်တော်မြတ်(ﷺ) မိန့်တော်မူတယ်... "အသင်တို့ အမျိုးသမီးများအနက်မှ ဂျန္နသ်သုခဘုံမှာ စံမြန်းခွင့်ရမယ့် အမျိုးသမီးကို ငါကိုယ် တော် မပြောပြရပေဘူးလား?" ထိုအခါ ဆွဟာဗဟ် သာဝက ကြီးများက"မိန့်ကြားတော်မူပါဟု"ပြန်လည် လျှောက်ထား ခဲ့တယ်။ ထိုအခါ ကိုယ်တော်မြတ်က မိန့်တော်မူတယ်။ သားသမီးရတနာ များစွာမွေးဖွားပေးပြီး ချစ်တတ်တဲ့ ဇနီး သည်တွေပဲဖြစ်တယ်။ ထိုဇနီးသည်ဟာ မိမိ ခင်ပွန်းသည် ကို စိတ်ဆိုးသည်ပဲဖြစ်စေ၊ ခင်ပွန်းသည်က သူမကို စိတ်

ထိခိုက်စေမယ့် အရာတစ်ခုခု ကိုပြုသည်ပဲဖြစ်စေ ဒါမှ မဟုတ် သူမရဲ့ ခင်ပွန်းသည်က သူမကို စိတ်ဆိုး နေသည်ပဲဖြစ်စေ ဖော်ပြပါ အခြေအနေအားလုံးမှာ မိမိတို့ ဇနီးမောင်နှံကြားဝယ် ပြေလည်မှုပြန်ရလာဖို့ ဤသို့ အမြဲ ပြောလေ့ရှိတယ်။ "ကဲဒီမှာ ကျွန်မလက်ကို ရှင်လက်ထဲ အပ်တယ်။ ရှင်မကျေနပ်ဘဲ ကျွန်မ ဒီညလုံးဝမအိပ်ဘူး။"

(သွမ်ရာနီကျမ်း၊ မုအ်ဂျမ့်လ်အောင်ဆွသ်ကျမ်း အတွဲ-၂ ဟဒီးစ်နံပါတ်-၂၀၆)

## မိမိခင်ပွန်းသည်ကို အကြံကောင်း၊ ဉာဏ်ကောင်းတွေ မျှဝေရင်း ခင်ပွန်းသည်ရဲ့ ပါရမီဖြည့်ဖက်အဖြစ် ရပ်တည်ပါ နှမငယ် ...

မှတ်သားထားပါ နှမငယ်... အစ္စလာမ်သာသနာ တော်ဟာ ကိစ္စရပ်တိုင်းမှာ ဇနီးမောင်နှံကြား အချင်းချင်း ကူညီရိုင်းပင်းဖို့ တိုက်တွန်းထားပါတယ်။ ခင်ပွန်းသည်က လည်း မိမိဇနီးကို တက်စွမ်းနိုင်သမျှ ကူညီရိုင်းပင်းရပါ မယ်။ ဒါနဲ့ပတ်သက်ပြီး စံနမူနာရှင်ကတော့ ကျွန်တော်တို့ ကိုယ်တော်မြတ်သခင်ပါပဲ။ ဟဇရသ် အာအေရှာဟ် (ﷺ)

သခင်မကြီးက ဆင့်ပြန်တယ်။ “ကိုယ်တော်သခင်ဟာ အိမ်မှု ကိစ္စတွေကိုလည်း ဝိုင်းဝန်းကူညီပေးခဲ့ပါတယ်။ နမားဇ်အချိန် ကျရောက်မှသာ အလုပ်ကို ခေတ္တရပ်ပြီး နမားဇ်ဝတ်ပြုဖို့ရာ ပြင်ဆင်တော် မူလေတယ်။”

(ဗိုခါ ရီကျမ်း ဟဒီးစ်နံပါတ်-၆၇၆)

ထို့နောက် ဇနီးသည်ဟာလည်း မိမိခင်ပွန်းသည်ကို အကြံဉာဏ်ကောင်းပေးတဲ့နေရာမှာ မတွန့်တိုပါနဲ့။ အထူး သဖြင့် ခင်ပွန်းသည်ဟာ အကြံဉာဏ်ကောင်းတွေ လိုအပ် နေချိန်မှာ မိမိစွမ်းနိုင်သလောက် ကောင်းမွန်တဲ့ အကြံ ဉာဏ်တွေ ပေးပါ။ မိမိ ခင်ပွန်းသည်ကို အကြံဉာဏ်ကောင်း ပေးတဲ့အခါ ဟာဇရသ် အွမ္မေဆလမာဟ် (رَضِيَ ٱللَّٰهُ عَنْهَا) သခင်မရဲ့ အကြောင်းအရာကို သတိရလိုက်ပါ။ ထိုအကြောင်းအရာ ကို အေမာမ် ဗိုခါရီသခင်က မိမိရဲ့ဗိုခါရီကျမ်းထဲမှာ ဤသို့ ဖော်ပြထားပါတယ်။ “ဟိုဒိုက်ဘီယာ ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုပြီးတဲ့အခါ ကိုယ်တော်မြတ်(صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَ)သခင်က ဟာဇရသ် အွမ္မေဆလမာဟ်(رَضِيَ ٱللَّٰهُ عَنْهَا)သခင်မဆီ ကြွမြန်းလာ

ခဲ့ပေတယ်။ ထို့နောက် ဆွဟာဗဟ်သာဝကကြီးတွေကို မိမိတို့ရဲ့ “ဟဒ်ယ်” သားကောင်းများအား ဇဗာဟ်ပြုပြီး ခေါင်းတုံးဆံချဖို့ရာ မိန့်ကြားခဲ့ခြင်းကို သာဝကကြီးများက (စာချုပ်ပါ တစ်ဖက်သက် စည်းကမ်းချက်တွေကြောင့် မခံမရပ်နိုင်ဖြစ်ပြီး ဝမ်းနည်းပူဆွေးသောက ရောက်ကာ) လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်းနဲ့ ပတ်သက်ပြီး ကိုယ်တော်မြတ် (ﷺ)က သခင်မအား ပြောပြလေ တယ်။ ထိုအခါ သခင်မကြီးက “သာဝကကြီးတွေဟာ ကိုယ်တော့်ရဲ့မိန့်ကြားချက်ကို အကောင်အထည်ဖော်ရန် ကိုယ်တော်သခင် အလိုရှိပါသလား? ဒါဆိုရင် ကိုယ်တော် သခင် အပြင်ထွက်ပြီး မိမိရဲ့ကုလားအုပ်ကို နဟာရ်(ဇဗာဟ်) လုပ်ပါ။ ထို့နောက် ကိုယ်တော်သခင့်ကို ခေါင်းတုံးဆံချ ပေးမယ့်သူအားခေါ်ပြီး ခေါင်းတုံးဆံချပါ။ ဤကိစ္စရပ်တွေ ပြီးဆုံးသည်ထိ ကိုယ်တော်သခင် သူတို့အနက်မှ တစ်ဦး တစ်ယောက်ကိုမျှ စကားပြောဆိုမှု မပြုပါနဲ့”ဟု အကြံပေး

ဖြေကြားလေတယ်။ သို့ရှိရာ ကိုယ်တော်သခင်လည်း သခင်မကြီး ပြောပြသည့်အတိုင်း လုပ်ဆောင်ခဲ့ပေတယ်။
(ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်-၂၇၃၁)

## မိမိခင်ပွန်းသည်အတွက် အလှပြင်ပါ နမင်ယ်...

အလှဆင် ပစ္စည်းအမျိုးမျိုးနဲ့ မိမိခန္ဓာကိုယ်ကို ကျော့ရှင်းလှပနေအောင် မိမိခင်ပွန်းသည်အတွက် ပြင်ဆင်ပါ နမင်ယ်။ ခင်ပွန်းသည်က နမင်ယ်ကို တွေ့လိုက်တာနဲ့ သူပျော်ရွှင်ကြည်နူးသွားလောက်အောင်ထိ မိမိကိုယ် မိမိ ပြင်ဆင်ပါ နမင်ယ်။ ဒီအတိုင်းပဲ ကျွန်တော်တို့ရဲ့ မိခင်မွန် သူတော်စင်မကြီးများက ပြုလုပ်ခဲ့ပါတယ်။ ထိုသူမများထဲမှာ ရှေ့တန်းကနေ ဦးဆောင်နေတာကတော့ နမင်ယ်လည်း သိရှိထားပြီးဖြစ်တဲ့ ဟဇရသ် အာအေရှဟ် (رَضِيَ اللَّهُ عَنْهَا) သခင်မကြီးနှင့် ကိုယ်တော်သခင်ရဲ့ တစ်ခြားသော ဇနီးကြင်ယာတော်များပါပဲ။ ထိုလွန်လေပြီးဖြစ်တဲ့ မိခင်မွန်တွေနဲ့ သူတော်စင်မကြီးတွေက အိမ်မှာဖြစ်စေ၊ ခရီးမှာဖြစ်စေ၊

မိမိရဲ့ ခင်ပွန်းသည်တွေအတွက် လက်ဝတ်ရတနာတွေကို ဝတ်ဆင်ပြီး အလှပြင် ကြပါတယ်။

## မိမိခင်ပွန်းသည်မှလွဲပြီး သူစိမ်းယောကျ်ားတွေကို ကြည့် ခြင်းမှ မိမိ မျက်လွှာကို ထိန်းသိမ်းပါ နှမငယ်...

ဤသို့မျက်လွှာထိန်းသိမ်းခြင်းဟာ အလ္လာဟ်အရှင် မိန့်တော်မူထားတဲ့ "အိုး-နဗီတမန်တော် အသင်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူ အမျိုးသမီးတို့အား ဤသို့ ပြောကြားပါလေ။ ၎င်းတို့သည် မိမိတို့ မျက်စိများကို အောက်သို့ စိုက်၍ထားရှိကြရမည်။(၂၄-၃၁) ဆိုတဲ့ အာယသ် ရဲ့ အမိန့်ပညတ်ချက်ကိုလည်း နာခံရာ ရောက်ပါတယ်။ မွတ်စ်လင်မ်အမျိုးသမီးဟာ မိမိမဟ်ရမ် အမျိုးသားတွေမှ အပ အခြားသူစိမ်းယောကျ်ားတွေကို ကြည့်ခြင်းမှ မိမိ မျက်လွှာကို ထိန်းပါတယ်။ ဒီဂုဏ်ရည်ဟာ အလ္လာဟ်အရှင် မိန့်တော်မူထားတဲ့ ဟူရ်ကညာတွေရဲ့ ဂုဏ်ရည်တွေ အနက် မှ ဂုဏ်ရည်တစ်ခုပဲ ဖြစ်ပါတယ်။ ဒီဂုဏ်ရည်က အမျိုးသမီး တစ်ဦး ကာအိန္ဒြေနဲ့ ပြည့်စုံကြောင်းကိုဖော်ညွှန်းတဲ့နေရာ

မှာ အထိရောက်ဆုံးသော ဂုဏ်ရည်ဖြစ်တယ်။ ဒါကြောင့် မို့ပဲ အလ္လာဟ်အရှင်ဟာ ဂျန္နသ်မှာရှိတဲ့ ဟူရ်ကညာတွေရဲ့ ကာအိန္ဒြေပြည့်စုံမှုကို ဤဂုဏ်ရည်နဲ့ပဲ ဖော်ကျူးထားတာ ဖြစ်ပါတယ်။ အလ္လာဟ်အရှင်မြတ်ဟာ စူရာဟ်ရဟ်မာန်မှာ ဟူရ်ကညာတွေရဲ့ အလှကို ဤသို့ ဖော်ပြထားပါတယ်။ "ယင်း (ဥယျာဉ်များရှိ အဆောက်အအုံ) တို့တွင် မျက်စိကို အောက်သို့ နှိမ့်ချထားသော မိန်းမများသည်လည်း ရှိကြပေ မည်။ ၎င်းတို့အလျှင် မည်သည့် လူသားတစ်ဦးတစ်ယောက် မျှလည်း ထိုမိန်းမပျိုတို့အား ထိတွေ့ခဲ့ဖူးသည်မရှိပေ။ မည်သည့် ဂျင်န်တစ်ဦးတစ်ယောက် မျှလည်း ထိတွေ့ခဲ့ဖူး သည် မရှိပေ"။ (၅၆-၅၆)

## ခင်ပွန်းသည်ရဲ့ ချွတ်ချော်မှုတွေကို ခွင့်လွှတ်မျက်ကွယ်ပြုလိုက်ပါ နှမငယ်...

"ခွင့်လွှတ်ကြပါ။ လျစ်လျူပြုပေးကြပါ။ အသင်တို့ သည် မိမိတို့အားအလ္လာဟ်အရှင်မြတ်က အပြစ်မှ ခွင့်လွှတ် ချမ်းသာပေးတော်မူသည်ကို မနှစ်သက် မလိုလားကြ

သလော”။(၂၄-၂၂) ဆိုတဲ့ အလ္လာဟ်အရှင်ရဲ့အာယသ်တော်ကို နှလုံးသွင်းလိုက်ပါ နှမငယ်... မိမိခင်ပွန်းသည်ရဲ့ ချွတ်ချော်မှုတွေကို ခွင့်လွှတ်မျက်ကွယ်ပြုပေးပါ။ ထိုချွတ်ချော်မှုတွေကိုပြောပြီး မိမိခင်ပွန်းကို မကြာမကြာ ပြစ်တင်မှုတွေ မပြုပါနဲ့။ ခင်ပွန်းသည်ရဲ့နှလုံးအတွင်းမှာ နေရာယူဖို့ဟာ သူရဲ့ ချွတ်ချော်မှုတွေကို ခွင့်လွှတ်မျက်ကွယ်ပြု ပေးခြင်းဖြင့် နေရာယူခြင်းက အကောင်းဆုံးပါ။ ခင်ပွန်းသည်ကို ခဏခဏ ပြစ်တင်ခြင်းဟာ နှမငယ်ကို ချစ်တဲ့သူရဲ့ ချစ်စိတ်ကို လျော့ကျစေပါတယ်။

## မွတ်စ်လင်မ်အမျိုးသမီးနှင့် သားသမီး ပြုစုပျိုးထောင်ခြင်းကဏ္ဍ

သားသမီးဆိုတာ လူတိုင်းအတွက် မျက်စိအေးစေတဲ့ ကြွေရုပ်လေးပါ။ ဒီကလေးလေးတွေကပဲ မိဘတွေရဲ့ ဘဝကို စိုပြည်စေတာပါ။ ဒီကလေးတွေကြောင့်ပဲ မိဘတွေဟာ မိမိတို့ရဲ့ဘဝမှာ အလုပ်တွေကို ကြိုးစားကြပြီး မိမိ သားသမီးတွေ ရှေ့ရေးအတွက် ဥစ္စာပစ္စည်းများ စုဆောင်းကြတာပါ။ ဒီကလေးတွေနဲ့ပဲ သူတို့ရဲ့ မျှော်လင့်ချက်တွေဟာ ရှင်သန်နေကြတာပါ။ ဒီကလေးတွေနဲ့ပဲ သူတို့ရဲ့ စိတ်တွေ တည်ငြိမ်အေးချမ်းနေကြရတာပါ။ ဒါကြောင့်မို့… နမငယ် မိမိသားသမီးတွေရဲ့ ပြုစုပျိုးထောင်မှုမှာ ဂရုတစိုက်နဲ့တာဝန်ယူ ဆောင်ရွက်မှုပြုပါ… ထိုသို့ တာဝန်ယူ ဆောင်ရွက်ဖို့လည်း နမငယ်အပေါ် ဝတ္တရားရှိပါတယ်။ ဒီ ကိစ္စမှာ နမငယ်ရဲ့ တာဝန်ဟာ ဖခင်ရဲ့ တာဝန်ထက်ပိုပါတယ်။ ဘာကြောင့်လဲဆိုတော့ နမငယ်ဟာ အချိန်တိုင်းမှာ မိမိ ကလေးတွေနဲ့ လက်ပွန်းတတီး နေထိုင်ခွင့်ရလို့ပါပဲ။ ဒီ

တာဝန်ဝတ္တရားနဲ့ ပတ်သက်ပြီး ကိုယ်တော်သခင်ကလည်း ဤသို့ မိန့်မြွက်ထားပါတယ်။ “အသင်တို့ အားလုံးဟာ တာဝန်ခံတွေဖြစ်ကြသလို မိမိ လက်အောက်ငယ်သားတွေနဲ့ ပတ်သက်ပြီး စစ်ကြောမေးမြန်းခြင်းခံရမှာ ဖြစ်ပါတယ်။ မွတ်စ်လင်မ်တို့ရဲ့ ခေါင်းဆောင်ဟာ တာဝန်ခံ ဖြစ်သလို မိမိ လက်အောက်ငယ်သားနဲ့ ပတ်သက်ပြီး စစ်ကြော မေးမြန်းခံရမယ့်သူ ဖြစ်ပါတယ်။ အမျိုးသားဟာ မိမိအိမ်သူအိမ်သားများနဲ့ပတ်သက်ပြီး တာဝန်ခံဖြစ်သလို ၎င်းတို့နဲ့ ပတ်သက်ပြီး စစ်ကြောမေးမြန်းခံရမယ့်သူလည်း ဖြစ်ပါတယ်။ အမျိုးသမီးဟာလည်း မိမိခင်ပွန်းသည်ရဲ့ အိမ်နဲ့ ပတ်သက်ပြီး တာဝန်ခံ ဖြစ်သလို၊ ၎င်းနဲ့ပတ်သက်ပြီး စစ်ကြော မေးမြန်းခံရမယ့်သူလည်းဖြစ်ပါတယ်။ ထို့နောက် ကျေးကျွန်ဟာ မိမိသခင်ရဲ့ ပစ္စည်းတွေနဲ့ ပတ်သက်ပြီး တာဝန်ခံ ဖြစ်သလို ထိုအရာတွေနဲ့ ပတ်သက်ပြီးစစ်ကြော မေးမြန်းခြင်းခံရမယ့်သူလည်း ဖြစ်ပါတယ်။ သို့ဖြစ်ပေရာ အသင်တို့အားလုံးသည် တာဝန်ခံများဖြစ်ကြပြီး မိမိတို့

လက်အောက်ငယ်သားတွေနဲ့ ပတ်သက်ပြီး စစ်ကြောမေး မြန်းခြင်းခံရမယ့်သူတွေဖြစ်ပါတယ်။ (ဗိုခါရီကျမ်း ဟဒီးစ် နံပါတ်- ၂၄၀၉)

## နမငယ်ရဲ့ ချစ်ခြင်းမေတ္တာ အကြင်နာတရားကို သားသမီးတွေအား သိရှိခံစားစေပါ...

ကလေးတွေဆိုတာ နမငယ်ရဲ့ နွေးထွေးလှတဲ့ ရင်ခွင်ကို လိုအပ်နေသူတွေပါ။ ဒီကလေးတွေဟာ မိခင်ရဲ့ ရင်ခွင်မှာ ကြီးပြင်းမှသာ ဖြူစင်လှပတဲ့ နှလုံးသားပိုင်ရှင်တွေ ဖြစ်လာကြမှာပါ။ ဒါကြောင့်မို့ မိမိရဲ့သားသမီးတွေအား ချစ်ခြင်းမေတ္တာနဲ့ အကြင်နာတရားတွေ သင်ပေးပါ။ သို့မှသာ ချစ်ခြင်း၊ ကြင်နာခြင်းတွေဟာ သူတို့ရဲ့နှလုံးသည်းပွတ်မှာ အမြဲကွန့်မြူးနေမှာ ဖြစ်ပါတယ်။ အကြင်နာဆိုတာ ကလည်း အစ္စလာမ်က ထားရှိဖို့ရာ တိုက်တွန်းထားတဲ့ ကိုယ်ကျင့်တရား တစ်ခုပါ။ ဒီကိုယ်ကျင့်တရားကို ကိုယ်တော်သခင်က မိမိရဲ့ မိန့်မြွတ်ချက်တွေနဲ့ရော လုပ်ရပ်တွေနဲ့ပါ ဒီလိုသရုပ် ဖော်ပြထားပါတယ်။ “အသက်အရွယ်ကြီး

ရင့်သူကို လေးစားသမှု မပြုသူနှင့် ငယ်ရွယ်သူကို မသနား သူဟာ ငါကိုယ်တော်ရဲ့ အသင်းဝင်ထဲမှ မဟုတ်ပေ။” (အဗူ ဒါဝူးဒ်ကျမ်း ဟဒီးစ်နံပါတ်-၄၉၄၃) လို့ မိန့်ထားသလို ဟဇရသ် အနက်စ် (رَضِيَ ٱللَّٰهُ عَنْهُ) သခင်ကလည်း ဤသို့ ဆင့်ပြန်ထား ပါတယ်။ “ကိုယ်တော်သခင်ဟာ ကလေးသူငယ် တွေရဲ့ ဘေးကနေ ဖြတ်သွားတိုင်း ၎င်းတို့ကို တယုတယနဲ့ ပြုံးပြီး စလာမ်မေတ္တာပို့သလေ့ရှိပါတယ်။

(ဗိုခါရီကျမ်း ဟ ဒီးစ်နံပါတ်-၆၂၄၇)

## မိမိရဲ့သားသမီးတွေကြားမှာ မျှတစွာ ဆက်ဆံပါ နှမငယ်...

အချို့ကို ဦးစားပေးဆက်ဆံပြီး အချို့ကိုတော့ နှိမ်တဲ့ အလုပ် မလုပ်ပါနဲ့ နှမငယ်... ဒါဟာ ရှရီအသ်တရားတော် မြတ်မှာ မပြုပိုင်ပါ။ ထို့အပြင် အဲဒီလို ခွဲခြားဆက်ဆံခြင်း ဟာ နှိမ်ခံရတဲ့ ကလေးရဲ့စိတ်ထဲမှာ သိမ်ငယ်မှုကိုဖြစ်စေ ပါတယ်။ ထိုသို့ပြုခြင်းကို ကိုယ်တော်မြတ်သခင်ကလည်း ဤသို့ ပြတ်ပြတ်သားသား တားမြစ်ခဲ့ပါတယ်။ ဟဇရသ်

နုအ်မားန် (رَضِيَ ٱللَّهُ عَنْهُ) သခင်က ဆင့်ပြန်တယ်။ တစ်နေ့မှာ ကျွန်ုပ်ရဲ့ဖခင်က ကျွန်ုပ်ကိုခေါ်ပြီး ကိုယ်တော် သခင်ဆီ သွားခဲ့တယ်။ ပြီးတော့ ကျွန်ုပ်ရဲ့ဖခင်က ကိုယ်တော်မြတ် ကို ဤသို့ လျှောက်ထားခဲ့တယ်။ "အိုး-အလ္လာဟ်ရဲ့ ရစူလ်... ကျွန်တော်ပိုင်တဲ့ ကျွန်တစ်ယောက်ကို ကိုယ်တော့်ကို သက်သေထားပြီး ကျွန်ုပ်ရဲ့ ဒီသားလေးကို ပေးပါတယ်။" ဒီအခါ ကိုယ်တော်မြတ် (صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ) ကမိန့်တော်မူတယ်။ "အသင့်ရဲ့ ကလေးတွေအားလုံးကို အသင် ဤသို့ပေးပါ သလား?" ထိုအခါ ဆွဟာဗဟ်ကြီးက "ကျွန်ုပ် မပေးပါ" ဟုဖြေကြားခဲ့တယ်။ ဒီတော့ ကိုယ်တော်မြတ် (صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ) သခင်က မိန့်တော်မူတယ်။ "အသင်တို့ဟာ အလ္လာဟ်အရှင် မြတ်ကို အကြောက်တရား ရှိကြကုန်။ ထို့ပြင် မိမိတို့ရဲ့ သားသမီးတွေကြားမှာ တရားမျှတစွာ ဆက်ဆံကြပါလေ" ထိုအခါ ကျွန်တော်ရဲ့ဖခင်ဟာ သူပြုခဲ့တဲ့ အလှူဒါနကို ပြန်လည်ရုတ်သိမ်းပြီး ပယ်ဖျက်ခဲ့ပါတယ်။

(မွတ်စ်လင်မ်ကျမ်း ဟဒီးစ်နံပါတ်-၁၆၂၃)

## မိမိရဲ့သားယောကျ်ားလေးတွေနဲ့ သမီးမိန်းကလေးတွေကြားမှာ ခွဲခြားဆက်ဆံမှု မပြုပါနဲ့ နှမငယ်...

ဒီလိုပဲ သူတို့လေးတွေကို ဂရုစိုက်ကြင်နာတဲ့နေရာမှာ ယောကျ်ားလေး မို့လို့ဆိုပြီး ပို၍ ဦးစားပေးဆက်ဆံတာမျိုးကို အထူးသဖြင့် ရှောင်ကျဉ်ပါ။ အမှောင်အမိုက်ခေတ်ရဲ့ အတွေးအခေါ်တွေကို ရင်ဝယ်ပိုက်ထွေးထားတဲ့ အမျိုးသမီးတွေကသာ ထိုသို့သော မတရားပြုမှုတွေကို ပြုလုပ်ကြတာပါ။ ထို့ကြောင့် ဒီလို အချင်းအရာတွေကနေ မွတ်စ်လင်မ် အမျိုးသမီးတွေဟာ လုံးဝ ကင်းသင့်ပါတယ်။ ဒါကြောင့်မို့ မိမိရဲ့သားနဲ့သမီး နှစ်ဦးစလုံးကို တန်းတူညီတူဆက်ဆံပါ။ ကြင်နာပါ။ ယုယပါ နှမငယ်... ပြီးတော့ သမီးဆိုတာ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချီးမြှင့်တဲ့ ဆုလာဘ်တစ်ခုလို့ နှလုံးသွင်းပါ နှမငယ်...။ ပြီးနောက် အလ္လာဟ်အရှင်မြတ်ဟာလည်း မိမိရဲ့ ကျမ်းတော်မြတ်မှာ... သားသမီးဆိုတာ မိမိကိုယ်တော်တိုင် ချီးမြှင့်ထားတဲ့ ဆုလာဘ် ဖြစ်ကြောင်းကို ဤသို့ မိန့်တော်မူထားပါတယ်။

"အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား (သမီး) မိန်းကလေးများကို ချီးမြှင့်တော်မူ၍ မိမိအလို ရှိတော်မူသောသူအား (သား) ယောကျ်ားကလေး ချီးမြှင့် တော်မူ၏။" (၅၂-၄၉)

ထို့နောက် သမီးမိန်းကလေးများကို ပြုစုပျိုးထောင် ပေးသူနဲ့ ပတ်သက်ပြီး အရှင်မြတ် ချီးမြှင့် မြှောက်စားမယ့် စဝါးဗ်ကိုလည်း လိုလားတပ်မက်မှုထားပါလေ။ ပြီးနောက် အဲ့ဒီအကျိုးစဝါးဗ်တွေနဲ့ ပတ်သက်ပြီး ဟဇရသ် အာအေ ရှာဟ် (رَضِيَ ٱللَّهُ عَنْهَا) ရဲ့ဆင့်ပြန်ချက်ကို အေမာမ် မွတ်စ်လင်မ်က ဤသို့ ဆင့်ပြန်ထားပါတယ်။ "ဟဇရသ် အာအေရှာဟ် (رَضِيَ ٱللَّهُ عَنْهَا) သခင်မ မိန့်တော်မူတယ်။ တစ်နေ့မှာ ဆင်းရဲတဲ့ အမျိုးသမီးတစ်ဦးဟာ သူမရဲ့ သမီးလေးနှစ်ယောက်ကို ချီပြီး ကျွန်မဆီ ရောက်လာခဲ့တယ်။ ဒီတော့ ကျွန်မလည်း သူမကို တစ်ခုခု ကျွေးဖို့ရှာ အိမ်ထဲမှာ ရှာလိုက်တော့ စွန်ပလွန်သီး သုံးလုံးကိုတွေ့တယ်။ ဒီစွန်ပလွန်သီးလေး သုံးလုံးကိုပဲ ကျွန်မဟာ ထိုအမျိုးသမီးကို ပေးလိုက်တယ်။

ထိုအခါ အဲဒီအမျိုးသမီးဟာ သူမရဲ့ ခလေးမလေး နှစ်ယောက်ကို စွန်ပလွန်သီး တစ်လုံးစီ ပေးလိုက်တယ်။ ပြီးနောက် ကျန်စွန်ပလွန်သီးကို သူမကိုယ်တိုင် စားဖို့ ပြင်လိုက်တယ်။ ဒါပေမဲ့ ကလေးမလေး နှစ်ယောက်က ကျန်တဲ့ စွန်ပလွန်သီးလေး တစ်လုံးကို ထပ်တောင်းပြန် တယ်။ ဒီတော့ ထိုအမျိုးသမီးလည်း မိမိစားမဲ့ စွန်ပလွန်သီး လေးကို နှစ်ပိုင်းပိုင်းပြီး တစ်ယောက်တစ်ပိုင်းစီ ပေးလိုက် တယ်။ ဒီမြင်ကွင်းကိုမြင်ပြီး ကျွန်မ စိတ်မကောင်း ဖြစ်သွား တယ်။ ဒါကြောင့် ထိုအမျိုးသမီးရဲ့ အဖြစ်အပျက် အားလုံး ကို ကိုယ်တော်သခင်အား ကျွန်မပြောပြလိုက်တယ်။ ထို အခါ ကိုယ်တော်သခင်က ဤသို့မိန့်တော်မူတယ်။ "ဤ အပြုအမူလေးကို အကြောင်းခံပြီး အလ္လာဟ်အရှင်မြတ်ဟာ သူမအတွက် ဂျန္နသ်သုခဘုံကို သတ်မှတ်ပေးတော်မူတယ်။ (သို့) သူမကို ဂျဟန္နမ်ငရဲမီးမှ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူတယ်။

(မွတ်စ်လင်မ် ကျမ်း ဟဒီးစ်နံပါတ်-၂၆၃၀)

## မွတ်စ်လင်မ် အမျိုးသမီးနှင့် ချွေးမများကြား ဆက်ဆံရေးကဏ္ဍ

ချွေးမကို မိမိရဲ့ သမီးတစ်ယောက်လို ဆက်ဆံပါ နှမငယ်... ပြီးတော့ ချွေးမအဖြစ်နဲ့ ယောက္ခမအိမ်ကို မိမိ စရောက်ခဲ့တဲ့ နေ့လေးတွေကိုလည်း သတိရလိုက်ပါ နှမငယ် ... ထိုအချိန်က နှမငယ်တမ်းတဖူးတဲ့ ယောက္ခမရဲ့ ဆက်ဆံမှုမျိုးကို ယခုအချိန်မှာ မိမိချွေးမလေးနဲ့အတူ အကောင်အထည် ဖော်ပါလေ နှမငယ်.... တကယ်တော့ အလ္လာဟ်အရှင့်ဘက်တော်မှ သတ်မှတ်ချက်က အဲ့ဒီအမျိုး သမီးလေးကို နှမငယ်ရဲ့ ချွေးမဖြစ်စေခဲ့တာပါ။

## လောကရဲ့နိယာမတရားကို နားလည်ပြီး မိမိချွေးမကို တန်ဖိုးထားပါ နှမငယ်...

ချွေးမဆိုတာ နှမငယ် နှစ်ပေါင်းများစွာ နေ့မနား ညမအား ပြုစုပျိုးထောင်ထားတဲ့ သားလေးကို အရွယ် ရောက် လူလားမြောက်လာချိန် မိဘကို ပြန်လည် ကျေးဇူး

ဆပ်နိုင်တဲ့ အရွယ်ရောက်ခါမှ နှမငယ်ရဲ့ ရင်ခွင်ကနေ လုယူသွားသူလို့ မထင်မှတ်ပါနဲ့ နှမငယ်... လောကမှာ အလ္လာဟ် အရှင်သတ်မှတ်ထားတဲ့ နိယာမတရားတွေကို နားလည်ပါ နှမငယ်... ဘာ့ကြောင့်လဲဆိုတော့ အစ္စလာမ့် အမိန့်ပညတ်ချက်နဲ့အညီ အသင်မကိုယ်တိုင် နို့ချိုတိုက်ကျွေးပြီး ဒီသားလေးကို ပြုစုပျိုးထောင်ခဲ့တာလေ။ ဒီတော့ သားဖြစ်သူရဲ့ ဇနီးချောလေးက ထိုသားကို နှမငယ်ရဲ့ ရင်ခွင်ထဲကနေ ဆွဲထုတ်ဖို့ဆိုတာ မဖြစ်နိုင်ပါဘူး။ သူ့ကျေးဇူးရှင် မိခင်မွန်ကြီးကို မေ့သွားလောက်အောင် လုပ်ဖို့ဆိုတာကတော့ ပိုတောင် မဖြစ်နိုင်ပါဘူး။ ဒါပေမဲ့ တစ်ခါတစ်ရံမှာ လူ့သဘာ၀အလျောက် မိမိချွေးမနဲ့ ပတ်သက်ပြီး တစ်မျိုးတစ်မည် ခံစားရတတ်တယ်။ အဲ့ဒီအခါကျရင် မိမိရဲ့ (သက္ကဝါ) အလ္လာဟ်အရှင်ရဲ့ အကြောက်တရားကို ရှေ့တန်းတင်ပါ။ ပြီးနောက် ဖြစ်သင့်တာကို လိမ္မာပါးနပ်စွာနဲ့ ဆောင်ရွက်ပါ။ သို့မှသာ မိသားစုကြား၀ယ် တည်ငြိမ်အေးချမ်းမှု ရရှိမှာဖြစ်ပါတယ်။ ဒီလို ကျင့်ကြံခြင်းဟာ

မွတ်စ်လင်မ် အမျိုးသမီးတို့ ဂုဏ်ရည်တွေအနက်မှ တစ်ခု ပင် ဖြစ်ပါတယ်။

## သားနဲ့ချွေးမကို ဆုံးမပဲ့ပြင်ပါ… ဒါပေမဲ့ ဇနီးမောင်နှံကြား ကိစ္စတွေမှာ ဝင်ရောက်စွက်ဖက်မှု မပြုမိပါစေနဲ့ နှမငယ်…

နှမငယ်ရဲ့ ချွေးမဟာ သူတို့ရဲ့ မိသားစုဘဝကို လွတ်လပ်စွာ ရှင်သန်ခွင့်ရှိပါတယ်။ ဒါပေမဲ့ ထိုလွတ်လပ်မှုဟာ အစ္စလာမ့် နည်းကျ ဖြစ်ရပါမယ်။ သို့မှသာ ၎င်းတို့ ဇနီးမောင်နှံကြားမှာ တစ်ဦးတစ်ယောက်မျှ ဝင်ရောက်စွက်ဖက်ပိုင်ခွင့် မရှိမှာဖြစ်ပါတယ်။ အကယ်၍ ၎င်းတို့ ဇနီးမောင်နှံကြားမှာ လိုအပ်ချက် တစ်စုံတရာ တွေ့ရှိလာလျှင် “သာသနာဆိုသည်မှာ အကောင်းလိုလားခြင်းဖြစ်သည်” ဆိုတဲ့ ကိုယ်တော်မြတ်ရဲ့ မိန့်မြွက်ချက်ကို လိုက်နာတဲ့အနေနဲ့ ၎င်းတို့ကို ကောင်းရာကောင်းကြောင်း ညွှန်ကြားဆုံးမပါ။ (မွတ်စ်လင်မ်ကျမ်း ဟဒီးစ်နံပါတ်-၅၅) ပြီးနောက် မိမိသမီးကို သူမရဲ့ ယောက္ခမအိမ်မှာ လွတ်လပ်စွာ ရှင်သန်စေချင်တဲ့အတိုင်း မိမိချွေးမကိုလည်း အလားတူ ထားရှိပါ နှမငယ်…

## မိမိသားနဲ့ ချွေးမကြားက ပြဿနာကို
## တရားမျှတစွာ ဆုံးဖြတ်ဖြေရှင်းပါ နှမငယ်...

တရားမျှတခြင်းဆိုတာ အစ္စလာမ်က တိုက်တွန်းထားတဲ့ ကိုယ်ကျင့်သီလတစ်ခုပါ။ ဒီကိုယ်ကျင့်တရားကို မိမိဘဝမှာ ဆင်မြန်းပါလေ... ပြီးတော့ မိမိဟာ လူကြီးတစ်ယောက်နေရာမှာ နေရပြီဆိုရင် မုချ လက်အောက်ငယ်သားတွေကြားမှာဖြစ်ကြတဲ့ ပြဿနာကို ဖြေရှင်းပေးရတတ်ပါတယ်။ ပမာအားဖြင့် မိမိသားဟာ ချွေးမပေါ် တစ်စုံတစ်ရာမတရားပြုမှုကို တွေ့ရှိပါက ချက်ချင်းမိမိသားကို ထိုမတရားပြုမှုကနေ ရပ်တန်းကနေရပ်စေပါ။ မိမိသားက မှားနေပါလျက်နဲ့ မိမိသားဘက်ကနေ မရပ်တည်လိုက်ပါနဲ့။အလ္လာဟ်အရှင် မိန့်တော်မူထားတဲ့ အာယသ်တော်ကို သတိရလိုက်ပါ။ အလ္လာဟ်အရှင်ဟာ မိမိရဲ့ကျမ်းတော်မြတ်မှာ ဤသို့အမိန့်ရှိထားပါတယ်။ “အသင်တို့သည် တစ်စုံတစ်ရာကိုသက်သေခံရာ၌ဖြစ်စေ၊ စီရင်ဆုံးဖြတ်ရာ၌ဖြစ်စေ စကားပြောဆိုသောအခါ (အပြောခံရသူသည်) မိမိဆွေရင်း

သားရင်း ဖြစ်သည်တိုင်အောင် တရားမျှတစွာ ပြောဆိုကြရမည်။"(၆-၁၅၂) အဲ့ဒီ အာယသ်တော်ကို ဆုပ်ကိုင်ကြတဲ့ မွတ်စ်လင်မ် အမျိုးသမီးတို့ဟာ မတရားပြုမှုရဲ့ ဝဲဂယက်ထဲကို မကျရောက်ကြပါဘူး။ ဒီအပြင် ဤသို့သော ဆုံးဖြတ်ရမယ့် အခြေအနေကို ကြုံကြိုက်ရပြီဆိုရင် အမှန်တရားကိုသာ ဆုပ်ကိုင်ပြီး မျှတစွာဆုံးဖြတ်ကြတယ်။ ဒါကြောင့်မို့ နှမငယ်လည်း ဒီလမ်းစဉ်ကိုလိုက်နာပြီး ဖန်ဆင်းရှင်ရဲ့ ကျေနပ်နှစ်သက်မှုကို ရယူပါလေ...

## မွတ်စ်လင်မ်အမျိုးသမီးနှင့် သားမက်များကြား ဆက်ဆံရေးကဏ္ဍ

နှမငယ်ရဲ့ ချွေးမကို မိမိသမီးအရင်းအချာတစ်ယောက်ကဲ့သို့ ဆက်ဆံသလို သားမက်ကိုလည်း မိမိရဲ့ သားအရင်းအချာ တစ်ယောက်ကဲ့သို့ ဆက်ဆံပါလေ နှမငယ်... မိမိသားမက်ကို ဂုဏ်ပေးပြီး ကောင်းမွန်စွာ ဆက်ဆံပါ နှမငယ်... မိမိသားမက်ကို တန်ဖိုးထားပါ။ မိမိဟာ သူ့ရဲ့ ဒုတိယမိခင်မွန်ဖြစ်ကြောင်းကို လုပ်ရပ်ဖြင့် ၎င်းအား ခံစား

စေပါ။ ဘယ်လိုပဲဖြစ်ဖြစ် သားမက်ဆိုတာ နှမငယ်ရဲ့သမီးနဲ့ နေကာဟပ်ပြုပြီးနောက် ၎င်းဟာ နှမငယ်ရဲ့ သားတွေအနက်မှ တစ်ယောက်ပါပဲ။ ဒါကြောင့်မို့ မိမိသားမက်နဲ့ မိမိရဲ့ ချစ်သမီးအတွက် တည်ငြိမ်အေးချမ်းတဲ့ ဘဝတစ်ခုဖြစ်တည်ဖို့ရာ ဝိုင်းဝန်း ကူညီပေးပါ။ ဘာကြောင့်လဲဆိုတော့ ၎င်းတို့ဟာ ယခုမှ ဘဝကို စတင်ရင်ဆိုင်မဲ့ သူတွေမို့ပါ။ နှမငယ်ကတော့ ဘဝရဲ့အတွေ့အကြုံတွေနဲ့ ရင့်ကျက်နေသူတစ်ယောက်ဖြစ်တာမို့ ၎င်းတို့ကို အကြံကောင်း ဉာဏ်ကောင်း တွေမျှဝေပေးပါ။ မိမိသားမက်ဟာ မေ့မှားသွားတဲ့အခါ ခွင့်လွှတ်မျက်ကွယ် ပြုပေးလိုက်ပါ နှမငယ်... သားမက်နဲ့ သမီးကြားက ပြဿနာကို တရားမျှတစွာဖြေရှင်းပေးပါ။ မိမိသမီးက မှားနေပါလျက် သမီးဘက်ကလိုက်ပြီး မဆုံးဖြတ်ပါနဲ့ နှမငယ်...

မိမိသမီးနဲ့ သားမက်ကြားမှာ နားလည်မှု လွဲမှားခြင်း၊ မိမိသမီးက ယောက်ျားဝတ္တရားတွေမှာ လျော့နည်းနေခြင်း၊ မိမိသမီးက အိမ်မှုကိစ္စမှာ ပေါ့လျော့ခြင်း စတဲ့

ကိစ္စရပ်တွေကို တွေ့ရှိပါက မိမိသမီးဘက်မလိုက်ဘဲ သမီးကိုသာ ဆုံးမပဲ့ပြင်မှုပြုပါလေ။ ထို့ပြင် သမီးကို ဖြောင်းဖြပြီး လမ်းမှန်ကို ပို့ဆောင်ပေးပါ။ တကယ့်လို့ သမီးက ယောကျ်ားရဲ့ ဂုဏ်သိက္ခာကို ထိပါးစေတဲ့ အပြုအမူကို ပြုလုပ်နေတာ တွေ့မြင်ပါက မိမိသမီးကို “မိသားစုတစ်စုရဲ့ ဦးစီးဦးဆောင်ပြုသူဟာ ယောကျ်ားသား” ဖြစ်တယ်ဆိုတာကို ရှင်းပြပါ။ ထို့နောက် “အလ္လာဟ်အရှင်မြတ်သည် (ယောကျ်ားနှင့် မိန်းမတို့အနက်) အချို့ကို (ယောကျ်ားများကို) အချို့ထက် (မိန်းမများထက်)ပင် အရည်အချင်း အဆင့်အတန်း သာလွန်စေတော်မူသောကြောင့်လည်းကောင်း၊ ယောကျ်ားများသည် မိမိတို့၏ ဥစ္စာပစ္စည်းများကို (မိန်းမတို့အား ကျွေးမွေးထောက်ပံ့ရာတွင်) သုံးစွဲသောကြောင့်လည်းကောင်း၊ ယောကျ်ားများသည် မိန်းမများအပေါ်၌ ကြီးကြပ် အုပ်ထိန်းသူများ ဖြစ်ကြပေသည်။”(၄-၃၄) ဆိုတဲ့ အာယသ်တော်ကို မိမိသမီးငယ်အား နားဝင်အောင် ရှင်းပြပါ။ ပြီးတော့ ဆက်ဆံတဲ့ နေရာမှာလည်း မိမိရဲ့သားနဲ့

သားမက်ကြားမှာ ခွဲခြားဆက်ဆံမှု မပြုပါနဲ့။ မိမိသားကို အုပ်ထိန်းသူတစ်ဦး ပီသစေချင်သလို မိမိရဲ့ သားမက်ကို လည်း အုပ်ထိန်းသူ ပီသစေပါ နှမငယ်...

## မွတ်စ်လင်မ်အမျိုးသမီး နှင့် ပတ်ဝန်းကျင် ကဏ္ဍ

အစ္စလာမ် သာသနာတော်က လောကီတာဝန်ကို သတ်မှတ်ပြဋ္ဌာန်းတဲ့နေရာမှာ အမျိုးသား၊ အမျိုးသမီးဟူ၍ ခွဲခြားမှု မပြုထားပါ။ ပြီးတော့ သာသနာ့တာဝန်တွေကို ထမ်းဆောင်စေတဲ့ နေရာတွေမှာလည်း အမျိုးသား၊ အမျိုး သမီးဟူ၍ ခွဲခြားမှုမပြုထားပါ။ ထို့ပြင် သာသနာတော်က တချို့တာဝန်တွေမှာ အမျိုးသား၊ အမျိုးသမီးကို တန်းတူ ညီတူထားရှိပါတယ်။ ဒါကြောင့် နှမငယ်ဟာ တက်စွမ်းနိုင် သမျှ ပတ်ဝန်းကျင်မှာ သာသနာ့အကျိုး သယ်ပိုး ဆောင် ရွက်ပါ။ ဒီပြင် မိမိပတ်ဝန်းကျင်မှာ အစ္စလာမ်သာသနာ တော်က ပြသထားတဲ့ ကိုယ်ကျင့်တရားတွေကို ဖြန့်ကြက် ပါ။ ပြီးနောက် အဲ့ဒီကိုယ်ကျင့်တရားတွေကို ကိုယ်တိုင်

လည်း လက်တွေ့ကျင့်ကြံပြီး ပတ်ဝန်းကျင်မှာ မီးရှူးတန်ဆောင်လို လူတို့ကို အလင်းဆောင်ပါ နှမငယ်...

## မိမိပတ်ဝန်းကျင်ကို နှမငယ်ရဲ့ ကောင်းမွန်တဲ့ ကိုယ်ကျင့် သီလနဲ့ ဆင်မြန်းပါ...

ကောင်းမွန်တဲ့ ကိုယ်ကျင့်တရားတွေကို မိမိမှာ ရှိလာအောင် မွေးမြူပါ နှမငယ်။ အလ္လာဟ်အရှင်မြတ် ပင်လျှင် မိမိရဲ့အချစ်တော် ကိုယ်တော်သခင်ကို ချီးကျူးတဲ့နေရာမှာ "မလွဲကေန် အသင်သည် ထူးကဲမြင့်မြတ်လှစွာသော သဘောသကန် အကျင့်စာရိတ္တပေါ်၌ ရှိနေ၏"(၆၈-၄) လို့ မိန့်ကြားထားပါတယ်။ ပြီးတော့ ကိုယ်တော် (ﷺ) သခင်ကိုယ်တိုင်ကပင် မိမိဆွဟာဗဟ် သာဝကကြီးများကို ဤသို့ အမြဲပြောကြားလေ့ရှိတယ်။ "အသင်တို့အနက်မှ အကောင်းဆုံးသောသူမှာ ကိုယ်ကျင့်သီလ အမွန်မြတ်ဆုံးသူပဲဖြစ်တယ်။" (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ် -၃၃၉၈) ထို့အတွက်ကြောင့် မိမိကိုယ်မိမိ အကောင်းဆုံးသူ အဖြစ်ကြိုးစားပါ နှမငယ်...

## မှန်ကန်သော စကားကိုသာ ပြောဆိုပါ နှမငယ်...

လူတိုင်းနဲ့ မှန်သောစကားကို ဆိုပါ။ ထိုသို့မှန်သော စကားကိုပြောဆိုဖို့ရာ အစ္စလာမ်သာသနာတော်က အလေး အနက် တိုက်တွန်းထားပါတယ်။ သို့သာမက မှန်သော စကားဆိုမှုကို ကောင်းမှုတွေရဲ့ ထိပ်ခေါင်အဖြစ် သတ်မှတ် ထားပါတယ်။ ပြီးတော့ ဒီအရာရဲ့ ဆန့်ကျင်ဘက်မှာ မုသား ပြောဆိုမှုကိုလည်း အစ္စလာမ်သာသနာတော်က ပြင်းပြင်း ထန်ထန် တားမြစ်ထားပါတယ်။ မုသားပြောဆိုမှုကို မကောင်းမှုတွေရဲ့ ရေသောက်မြစ်အဖြစ် သတ်မှတ်ထား ပါတယ်။ ဒါကြောင့် သာသနာက ဆုံးမထားတဲ့ ထိုအမိန့် ပညတ်ချက်တော်ကို လိုက်နာပြီး အလ္လာဟ်အရှင်ရဲ့ ကျေနပ်နှစ်သက်မှု ရရှိဖို့ရာ ကြိုးစားပါ။ ထိုသို့ ကြိုးစား ရာတွင် အခက်အခဲတစ်စုံတစ်ရာ ကြုံကြိုက်လာပါက ကိုယ်တော်ရဲ့ မိန့်မြွက်ချက်ဖြင့် မိမိရဲ့စိတ်ကို ခွန်အား ဖြည့်တင်းပါ။ နောက်ဆုံးအနေနဲ့ ကိုယ်တော်မြတ် (ﷺ) ရဲ့ မိန့်မြွက်ချက်ကို နှမငယ်အတွက် လက်ဆောင်အနေနဲ့

တင်ပြလိုက်ပါတယ်။ “ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူ တယ်။ “အမှန်တရားဟာ ကောင်းမှုဘက်ကို အလင်းဆောင် ပေးတယ်။ ထို့နောက် ကောင်းမှုဟာ ဂျန္နသ်ဘက်ကို လမ်းပြပေးတယ်။ လူတစ်ဦးဟာ အမှန်ကို ပြောဆိုရင်း နောက်ဆုံးမှာ သူဟာ အလ္လာဟ့်ထံမှာ အလွန်မှန်သော စကားဆိုသူအဖြစ် စာရင်းဝင်သွားတယ်။ မုသားဟာ မကောင်းမှုဘက်ကိုလမ်းပြတယ်။ မကောင်းမှုဟာ ဂျဟန္နမ် ဘက်ကိုလမ်းပြတယ်။ လူတစ်ဦးဟာ မုသားပြောရင်း နောက်ဆုံး သူဟာ အလ္လာဟ့်ထံမှာ အလွန်မုသားပြောသူလို့ ရေးမှတ်ခံရတော့တယ်။ (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်-၆၀၉၄)

## လမ်းမှန်ကနေ တိမ်းပါးနေတဲ့ သူမတိုင်းကို ဆုံးမစကား ပြောဆိုခြင်းဖြင့် လမ်းမှန်သို့ ပြန်လည်ပို့ဆောင်ပေးပါ နှမငယ်...

ယခုခေတ်ခါသမယမှာဆိုရင် အမျိုးသမီးအမြောက် အမြားဟာ မိမိကိုယ်မိမိ လမ်းမှားလို့ မှားမှန်းမသိ ဖြစ်နေ ကြတယ်။ ထိုထက်ပိုပြီး ဝမ်းနည်းစရာကောင်းတာက အဲဒီ

အမျိုးသမီးတွေကို လမ်းမှန်သို့ ပို့ဆောင်ပေးမယ့် အမျိုးသမီး အပေါင်းအသင်းတွေ မရှိနေခြင်းပါပဲ။ ဒါကြောင့်ခုလို လမ်းလွဲလမ်းမှားရောက်နေတဲ့ အမျိုးသမီးတွေကို တွေ့ရှိပါက တည့်မတ်ပြုပြင်ပေးပါ။ ထိုသို့ပြုပြင်ပေးခြင်းဟာ အသင်မဘက်ကနေ ၎င်းအမျိုးသမီးကို ကျေးဇူးပြုခြင်းလို့ မထင်ပါနဲ့။ ဧကန်စင်စစ်တော့ ဒါဟာ နှမငယ်အပေါ် အစ္စလာမ်သာသနာက သတ်မှတ်ပြဋ္ဌာန်း ပေးထားတဲ့တာဝန်တစ်ရပ်ပါ။ "သာသနာဆိုတာ အချင်းချင်းကြားဝယ် အကောင်းလိုလားခြင်းပဲဖြစ်တယ်။"

(မွတ်စ်လင်မ်ကျမ်း ဟ ဒီးစ်နံပါတ်-၅၅)

## ဟန်ဆောင်မှုနှင့် မုသားချီးကျူးမှုတွေကို ရှောင်ကျဉ်ပါ နှမငယ်...

ဟန်ဆောင်ခြင်းကို ရှရီအသ်တရားတော်က ဟရာမ် အဖြစ် သတ်မှတ်ထားပါတယ်။ ဒါကြောင့်မို့ နှမငယ်ရဲ့ အပြောအဆို ဆက်ဆံမှုတွေဟာ ဟန်ဆောင်မှုတွေကနေ ကင်းစင်နေပါစေ။ ဘာကြောင့်လဲဆိုတော့ ဟန်ဆောင်

ခြင်းဆိုတာ အပေါ်ယံလှပေမဲ့ ၎င်းရဲ့ဗီဇဟာ အလွန်ပင် ယုတ်ညံ့ပြီး လူတိုင်းကို နာခေါင်းရှုံ့စေတဲ့ အရာပါ။ မွတ်စ်လင်မ် အမျိုးသမီးတစ်ဦးအနေနဲ့ ထိုသို့သော အကျင့်ပျက် ယုတ်ညံ့တဲ့ကိစ္စကနေ လုံးဝဥဿုံ ရှောင်ရှားရပါမယ်။ ထိုသို့ ရှောင်ရှားရာမှာ နမူနာယူဖို့အတွက် စံနမူနာ အယူထိုက်ဆုံး ပုဂ္ဂိုလ်ဟာ ကိုယ်တော်သခင်ပဲ ဖြစ်ပါတယ်။ “တစ်နေ့ ဗနူအာမိရ်ဟာ ကိုယ်တော်သခင်ကို (အသင်ဟာ ကျွန်ုပ်တို့ရဲ့ အရှင်သခင်ပါ)လို့ ချီးကျူးတယ်။ ထိုအခါ ကိုယ်တော်မြတ်သခင်က (အရှင်သခင်ဆိုတာ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းပဲ ဖြစ်တယ်) လို့ ဖြေကြားခဲ့တယ်။ ထို့နောက် ၎င်းတို့ဟာ ကိုယ်တော်မြတ်ကို (အသင်ဟာ ကျွန်ုပ်တို့အနက် အမွန်မြတ်ဆုံးသူ ဖြစ်တယ်)လို့ ချီးကျူးပြန်တယ်။ ထိုအခါ ကိုယ်တော်မြတ် (ﷺ) က ၎င်းတို့ကို “အသင်တို့ဟာ ငါကိုယ်တော်ကို အသင်တို့ ခေါ်နေကြ အတိုင်းသာ ခေါ်ဆိုပါလေ။ အသင်တို့ ရှိုင်သွာန်မိစ္ဆာကို လှည်းဖြားဖို့ အခွင့်အရေး မပေးပါနှင့်။ အလ္လာဟ်အရှင် ငါကိုယ်တော်ကို

ချီးမြှင့်ထားတဲ့ အဆင့်အတန်းထက်ပိုပြီး ချီးကျူးတဲ့ အသင်တို့ရဲ့ ချီးကျူးမှုကို ငါကိုယ်တော် မနှစ်သက်ပေ” လို့ မိန့်ခွန်းတော်မူခဲ့တယ်။ (အဗူဒါ ဝူးဒ်ကျမ်း ဟဒီးစ်နံပါတ်-၄၈၀၆)

## ဂုဏ်ပြိုင်မှုနှင့် ပြစားမှုကို ရှောင်ကျဉ်ပါ နှမငယ်...

အစ္စလာမ်သာသနာက ရှိသားပြီး စိတ်ထားဖြူစင်ဖို့ရာ တိုက်တွန်းထားပါတယ်။ ဤသည် အစ္စလာမ်ရဲ့ အနှစ်သာရပဲ ဖြစ်ပါတယ်။ ပြီးတော့ သာသနာတော်က ပြစားခြင်း၊ ဂုဏ်တုဂုဏ်ပြိုင်သမှုပြုခြင်းကို ရှုတ်ချထားပါတယ်။ ထို့အပြင် အလ္လာဟ်အရှင်မြတ်က ပြစားသူကို အလှူဒါနပြုပြီး ဂုဏ်ဖော်တဲ့အတွက် အအ်မလ်တွေ ပျက်စီးရတဲ့သူနဲ့ ခိုင်းနှိုင်းထားပါတယ်။ ထိုခိုင်းနှိုင်းမှုကို အရှင်မြတ်က မိမိရဲ့ ကျမ်းတော်မြတ်မှာ ဤသို့ပုံဖော်ထားပါတယ်။ “အိုး-ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့၏ အလှူဒါနများကို ကျေးဇူးဖော်ခြင်းအားဖြင့်လည်းကောင်း၊ စိတ်ဒုက္ခ ရောက်စေခြင်းအားဖြင့်လည်းကောင်း၊ အကြင်သူကဲ့သို့ အချည်းအနှီး မဖြစ်စေ

ကြကုန်လင့်။ ထိုသူသည် အလ္လာဟ်အရှင်မြတ်နှင့် နောက်ဆုံးနေ့ကို မယုံကြည်ဘဲလျက် လူတို့အား ပြစားရန်အလို့ငှာသာ မိမိဥစ္စာပစ္စည်းကို လှူဒါန်းပေးကမ်း၏။ သို့ဖြစ်လေရာ ထိုသူသည် သွေ့ခြောက်ချောမွတ် မာကျောသော ကျောက်တုံးနှင့် အလားသဏ္ဌာန်တူ၏။ ထိုကျောက်တုံးပေါ်တွင် အနည်းငယ် မြေမှုန့်တင်လျက်ရှိ၏။ ထိုကျောက် တုံးပေါ်၌ သည်းထန်သော မိုးသည် ရွာသွန်းချလိုက်ရာ (မြေမှုန့်များသည် ရေနှင့်အတူ မျောပါ၍သွားသဖြင့်) ထိုကျောက်တုံးသည် ပြကတေ့အတိုင်း ကျောက်သားမျှသာ ပြောင်လက်စွာ ကျန်ရှိခဲ့လေသည်။ ထိုကဲ့သို့သောသူများသည် မိမိတို့ ရှာဖွေ ဆည်းပူးခဲ့ကြသော ကောင်းမှုကုသိုလ်များအနက် အဘယ်တစ်စုံတစ်ရာကိုမျှပင် (နောင်ကိဃာမသ်နေ့တွင်) ရရှိနိုင်ကြမည် မဟုတ်ချေ။ (ဤသူတို့ကား ကျောက်တုံးနှင့် အလားသဏ္ဌာန်တူသော ကာဖိရ်များသာ ဖြစ်ကြပေသည်) အလ္လာဟ်အရှင်မြတ်သည် (ယင်းကဲ့သို့ သောကာဖိရ်တို့အား တရားဓမ္မ ညွှန်ပြတော်မူမည် မဟုတ်ချေ။ (၂-၂၆၄) ဖော်ပြပါ

အာယသ်တော်မှာ ဂုဏ်ဖော်ခြင်းဟာ ကောင်းမှုအလှူဒါန တွေကို ပျက်ပြယ်စေတဲ့အရာ ဖြစ်တယ်လို့ ဖော်ပြထားပါ တယ်။ ဘာကြောင့်လဲဆိုတော့ ထို ဂုဏ်ဖော်သူတို့ဟာ ကောင်းမှုတွေကို အလ္လာဟ်အရှင်မြတ် ကျေနပ်နှစ်သက်ဖို့ ရာ မဟုတ်ဘဲ ပြစားဖို့ အတွက်သာ ပြုလုပ်ကြတဲ့အတွက် ကြောင့်ဖြစ်တယ်။

## မိမိနှင့်သဘောထားချင်း မတိုက်ဆိုင်သူနဲ့လည်း ချိုသာစွာ ဆက်ဆံပါ နှမငယ် ...

တစ်ခါတစ်ရံဘဝမှာ လူတိုင်းဟာ မိမိမနှစ်သက်တဲ့ သူနဲ့လည်း ဆုံဆည်းတတ်ပါတယ်။ ထိုသို့တွေ့ဆုံတဲ့အခါ မိမိကိုယ်မိမိ လမ်းမှန်ကနေ လွဲချော်ခြင်း မဖြစ်အောင် ထိန်းသိမ်းပါ။ မိမိမနှစ်သက်တဲ့သူနဲ့ ပတ်သက်ပြီး ကိုယ့် ဘက်ကနေ လွန်ကျူးမှု တစ်စုံတစ်ရာ မဖြစ်ပေါ်မိပါစေနဲ့။ သို့သာမက မိမိနဲ့သဘောထားချင်း မတိုက်ဆိုင်သူကိုဖြစ် စေ၊ မိမိမနှစ်သက်သူကိုဖြစ်စေ၊ နူးညံ့သိမ်မွေ့စွာ ဆက်ဆံ ပါလေ။ ဤကိုယ်ကျင့်တရားဟာ ကိုယ်တော်မြတ်နှင့်

ဆွဟာဗဟ် သာဝကကြီးတို့ ကျင့်ကြံခဲ့တဲ့ ကိုယ်ကျင့်တရား ပဲ ဖြစ်ပါတယ်။ ဟဇရသ် အာအေရှဟ်(ﷺ)သခင်မက ဆင့် ပြန်တယ်။ တစ်နေ့မှာ ပုဂ္ဂိုလ်တစ်ဦးဟာ ကိုယ်တော်မြတ် (ﷺ)ထံ အခစားဝင်ဖို့ ခွင့်လာတောင်းတယ်။ "အသင်တို့ ထို ပုဂ္ဂိုလ်ကို ဝင်ခွင့်ပြု လိုက်ပါလေ။ ထိုပုဂ္ဂိုလ်ဟာ ကိုယ်ကျင့် တရားအရာမှာ ဆိုးရွားလှလေစွ"လို့ ကိုယ်တော်မြတ်က မိန့်တော်မူခဲ့တယ်။ ပြီးနောက် ထိုပုဂ္ဂိုလ်ဟာ ကိုယ်တော် မြတ်(ﷺ)ထံဝင်ရောက်ခစားတော့ ကိုယ်တော်မြတ်(ﷺ)က ၎င်းကိုနူးညံ့သိမ်မွေ့စွာ ဆက်ဆံခဲ့တယ်။ ထိုအချင်းအရာကို ဟဇရသ်အာအေရှာဟ် သခင်မက မြင်ပြီး ကိုယ်တော်မြတ် (ﷺ)ကို ဤသို့ လျှောက်တင်လေတယ်။ "အိုး-အလ္လာဟ်ရဲ့ ရစူလ်၊ ကိုယ်တော်က ထိုပုဂ္ဂိုလ်နဲ့ ပတ်သက်ပြီး ဤသို့သော မိန့် မြွက်ချက်တွေ မိန့်ခဲ့ပြီးကာမှ ဘာကြောင့်ထိုသူကို နူးညံ့ သိမ်မွေ့စွာ ဆက်ဆံခဲ့တာလဲ။ ထိုအခါကိုယ်မြတ်(ﷺ)သခင် က မိန့်တော်မူတယ်။ "အိုး-အာအေရှာဟ်၊ အလ္လာဟ်အရှင် မြတ်ထံပါးမှာ ယုတ်ညံ့ သိမ်ဖျင်းဆုံးသူမှာ စာရိတ္တနဲ့

ကိုယ်ကျင့်တရား ယုတ်ညံ့တဲ့အတွက်ကြောင့် လူတို့ရဲ့ ဝိုင်းဝန်း ဖယ်ကျဉ်ထားခံရသူပဲ ဖြစ်တယ်။” (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်-၆၀၅၄)

## အကြင်နာတရား ထားရှိပါလေ နှမငယ်...

နှမငယ်နဲ့ ဆက်ဆံနေသူတွေ အားလုံးကို ကြင်နာစွာ ဆက်ဆံပါ။ထိုသို့အကြင်နာတရားထားရှိခြင်းဟာ အလ္လာဟ် အရှင်မြတ်ရဲ့ ရဟ်မသ်တော် နှမငယ်အပေါ်သို့ ကျရောက်စေမယ့် အကြောင်းခံတစ်ရပ် ဖြစ်ပါတယ်။ ၎င်း အလို သဘောဆောင်တဲ့ ဟဒီးစ်တော်တွေ ဤသို့လာရှိထား ပါတယ်။ “အသင်တို့ဟာ မြေပထဝီဝယ်ရှိရှိသမျှ သူအား လုံးကို သနားကြင်နာကြလေကုန်။ သို့မှသာ ကောင်းကင်၌ ရှိသောအရှင်က အသင်တို့ကို သနားတော်မူမှာဖြစ်တယ်” (အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးစ်နံပါတ်-၄၉၄၁) “လူတို့အား သနားကြင်နာမှု မပြုသူကို အလ္လာဟ်အရှင်မြတ်သခင်ကလည်း သနား ကြင်နာမည်မဟုတ်ပေ။” (ဗိုခါရီကျမ်း၊ ဟဒီးစ်နံပါတ်-၇၃၇၆) ၎င်း ဟဒီးစ်တော်များအပြင် ဆွဟာဗဟ် သာဝကကြီး ဟဇရသ်

အွမ္မရ် (ﷺ) သခင်ရဲ့ အဖြစ်အပျက် တစ်ခုဟာလည်း ဤသို့ လာရှိပါတယ်။ “တစ်ခါမှာ ဟဇရသ်အွမ္မရ် (ﷺ)သခင်က ပုဂ္ဂိုလ်တစ်ဦးကို မြို့တော်ဝန်ခန့်ဖို့ ရည်ရွယ်ခဲ့တယ်။ ထိုသို့ ရည်ရွယ်ပြီးနောက်မှာ သခင်ကြီးက ၎င်းသူဟာ သူရဲ့ ကလေးတွေကို ယုယပွေ့ဖက်ပြီး နမ်းရှုပ်ခြင်း မရှိဘူးလို့ သတင်းရခဲ့တယ်။ ထိုအခါ သမ္မတကြီးအွမ္မရ် (ﷺ) သခင်က ၎င်းကို မြို့တော်ဝန် မခန့်တော့ဘဲ ဤသို့ အမိန့်ရှိတော်မူလေတယ်။ “မိမိသားသမီးကိုတောင် မကြင်နာတတ်တဲ့ သူဟာ မိမိရဲ့ လက်အောက်ငယ်သားတွေကို ဘယ်လို ကြင်နာမလဲ။ အလ္လာဟ်အရှင်မြတ်အား တိုင်တည်ပြီး ငါ ပြောကြားမယ်။ “ငါဟာ ဤသို့သော ပုဂ္ဂိုလ်မျိုးတွေကို ဘယ်သောအခါမျှ ခေါင်းဆောင်ခန့်မည် မဟုတ်ပေ။”

## မနာလိုဝန်တိုမှုမပြုပါနဲ့ နှမငယ်...

ယခုခေတ်မှာ မြောက်မြားစွာသော အမျိုးသမီးတွေဟာ မနာလိုဝန်တိုမှု ဝဲဂယက်ထဲမှာ တဝဲလည်လည် ဖြစ်နေကြပါတယ်။ ထိုသို့ဖြစ်ရခြင်းရဲ့ အဓိက အကြောင်းတရား

ကတော့ ၎င်းသူမတို့ဟာ သူမတို့ထက် ကြွယ်ဝချမ်းသာပြီး ချောမောလှပတဲ့ အခြားအမျိုးသမီးတွေကို ကြည့်ရင်း ကိုယ့်ကိုယ်ကို စိတ်အလိုမကျဖြစ်ကာ တဖြည်းဖြည်းနဲ့ မနာလိုဝန်တိုမှု ဝဲဂယက်ထဲကို ရောက်မှန်းမသိ ရောက်သွားကြတာပါ။ တကယ်တော့ မွတ်စ်လင်မ် အမျိုးသမီးတွေဆိုတာ ထိုသို့သော အဆင့်အတန်းမရှိတဲ့ ကိုယ်ကျင့်တရားတွေကနေ ရှောင်ကြဉ်ကြရပါတယ်။ ဘာကြောင့်လဲ ဆိုတော့ သူမတို့ကို ရှရီအသ်တရားတော်မြတ်က ဤသို့သော သွန်သင်ဆုံးမမှုတွေပြုထားလို့ပါပဲ။ “လောကမှာ ဖြစ်တည်နေတဲ့ အရာအားလုံးဟာ အလ္လာဟ်အရှင်ရဲ့ သတ်မှတ်ချက်အရပဲဖြစ်တယ်။ ပြီးတော့ လောကစည်းစိမ်ဆိုတာ ဘယ်လောက်ပဲ များပြားပါစေ တမလွန်မှာ မွတ်စ်လင်မ်အမျိုးသမီးတွေအတွက် အလ္လာဟ်အရှင်မြတ် စီစဉ်ပေးထားတဲ့ စည်းစိမ်တွေနဲ့ နှိုင်းယှဉ်မယ်ဆိုရင် ဖွဲဆန်ကွဲပါပဲ။ ပြီးနောက် မွတ်စ်လင်မ် အမျိုးသမီးရဲ့တန်ဖိုးဟာ ကောင်းမှုတွေ များစွာပြုလုပ်ခြင်း၊ အလ္လာဟ်အရှင်မြတ်ကို အကြောက်တရား

ထားရှိခြင်းမှာပဲ ရှိပါတယ်။ မွတ်စ်လင်မ် အမျိုးသမီးရဲ့ တန်ဖိုးဟာ ပျက်သုဉ်းသွားမဲ့ လောကစည်း စိမ်တွေမှာ လုံးဝ မရှိပါဘူး။

## ပြုံးပန်းဆင်ပါ နှမငယ်...

မိမိရဲ့မဟ်ရမ်တွေရှေ့မှာ မိမိမျက်နှာကို တတ်စွမ်း နိုင်သမျှ အပြုံးပန်းနဲ့ ဆင်မြန်းထားပါ နှမငယ်။ မိမိခင်ပွန်း သည်နဲ့အတူ နေထိုင်တဲ့အခါမျိုးမှာလည်း အပြုံးပန်းဆင် ပါ။ ထို့နောက် ပတ်ဝန်းကျင်နဲ့ ဆက်ဆံတဲ့အခါမျိုး မှာလည်း အပြုံးပန်းဆင်ပါ နှမငယ်။ မျက်နှာကို ပြုံးရွှင်စွာ ထားခြင်း ဟာလည်း ကောင်းမှုကုသိုလ် တစ်ခုပါ နှမငယ်။ ဒါနဲ့ ပတ်သက်ပြီး ကိုယ်တော်မြတ် (ﷺ) က ဤသို့ အမိန့်ရှိထား ပါတယ်။ "မည်သည့် ကောင်းမှုကုသိုလ်ကိုပင် ဖြစ်စေ အသင်တို့ အထင်မသေးကြလေနှင့်။ နောက်ဆုံး မိမိ နောင် တော်ကို ပြုံးရွှင်စွာတွေဆုံခြင်းဆိုတဲ့ ကောင်းမှုလေးကိုပင် အသင်တို့ အထင်မသေးကြလေနှင့်။"(မွတ်စ်လင်မ်ကျမ်း၊ ၂၆၂၆)။

## စိတ်ကို ပေါ့ပေါ့ပါးပါး ထားပြီးဘဝကို ရှင်သန်ပါ နှမငယ်....

ချိုသာတဲ့ စကားတွေပြောဆိုပါ နှမငယ်။ ဒီတိုင်းပဲ မိမိရဲ့ သူငယ်ချင်း၊ မောင်နှမများနဲ့လည်း ကောင်းမွန်စွာ ဆက်ဆံပါ။ ဟန်ဆောင်မှုတွေနဲ့ ဘဝကို မတည်ဆောက်ပါနဲ့။ စနောက်ကျီစယ်သင့်တဲ့နေရာမှာ မိမိညီမတွေ၊ သူငယ်ချင်းတွေကို နောက်ပြောင်ကျီစယ်ပါ။ ဒါပေမဲ့ ကျီစယ်မှုဟာ အစ္စလာမ်ဘောင်အတွင်းက ဖြစ်ပါစေ။ ဘာကြောင့်လဲဆိုတော့ ကိုယ်တော်မြတ်(ﷺ)သည်လည်း စနောက်မှုတွေ ပြုခဲ့ပါတယ်။ ထိုသို့ စနောက်မှုတွေ ပြုတဲ့အတွက် ဆွဟာဗဟ်သာဝကကြီးများက ကိုယ်တော့်ကိုဤသို့တောင်လျှောက်ထားကြတယ်။ "ကိုယ်တော်သခင်လည်း စနောက်ကျီစယ်မှု ပြုတယ်နော်" အဲ့ဒီအခါ ကိုယ်တော်သခင်က ဒီလိုအဖြေပြန်ပေးလေတယ်။ "ငါ ကိုယ်တော်ဟာ မုသားပြောဆိုပြီး စနောက်မှု မပြုပေ။ အမှန်အတိုင်းပြော၍သာ စနောက်မှု ပြုလေတယ်။ (သိရ်မိဇီကျမ်း၊ ဟဒီးစ်နံပါတ်-၁၉၉၀)

ကိုယ်တော်မြတ် (ﷺ) ရဲ့ ဒီမိန့်ခွန်းချက် ရုပ်လုံးပေါ်လာအောင် ကိုယ်တော်မြတ်(ﷺ)နဲ့ အဖွားအိုတစ်ဦးရဲ့ အဖြစ်အပျက်လေးကို ဖတ်ကြည့်ပါ နှမငယ်... "တစ်ခါက အဖွားအို တစ်ဦးဟာ ကိုယ်တော်မြတ် (ﷺ) ထံလာရောက်ပြီး "အိုး - အလ္လာဟ်ရစူလ်၊ ကျွန်မ ဂျန္နသ် သုခဘုံရရှိဖို့ရာ အလ္လာဟ်ထံမှာ တောင်းဆုပြုပေးပါ"လို့ လျှောက်ထားတဲ့ အခါ ကိုယ်တော်မြတ်(ﷺ)သခင်က အဖွားအိုကို ကျီစယ်ပြီး ဒီလိုဖြေကြားခဲ့တယ်။ "အိုး-အဖွားအို၊ ဂျန္နသ်သုခဘုံကို အဖွားအိုတွေ ဝင်ခွင့်ရမှာ မဟုတ်ပါ" ထိုအခါ အဖွားအိုဟာ ငိုပြီး လှည့်ပြန်သွားလေတယ်။ ဒီတော့မှ ကိုယ်တော်မြတ် (ﷺ)ဟာဤသို့မိန့်တော်မူတယ်။ "အဖွားအိုအဖြစ်နဲ့ ဂျန္နသ် သုခဘုံကို ဝင်ရမှာ မဟုတ်ဘူးလို့ သူမကို ပြောလိုက်ပါ။ (မုချ အလ္လာဟ်အရှင်မြတ်ဟာ အဖွားအိုတွေကို အပျိုစင်များအသွင် ပြန်လည် ဖန်ဆင်းပေးပြီးမှ ဂျန္နသ်သုခဘုံမှာ စံမြန်းစေမှာ ဖြစ်တယ်) ထို့နောက် ကိုယ်တော်မြတ်(ﷺ)က "ကေန်မလွဲ ငါအရှင်မြတ်သည် ထိုမိန်းမတို့အား အထူး

ဖန်ဆင်းတော်မူ၏။ တစ်ဖန် ငါအရှင်မြတ်သည် ၎င်းတို့အား ပျိုကညာများအဖြစ် ပြုလုပ်ပေးတော်မူခဲ့၏။(၃၆-၃၆) ဆိုတဲ့ အာယသ်တော်ကို ဖတ်ရွတ် သရဇ္ဈာယ်တော်မူတယ်။

(မစ်ရ်ကားသ်ကျမ်း၊ ဟဒီးစ်နံပါတ်-၄၈၁၄)

## အဝတ်အစားဝတ်ဆင်ရာမှာလည်း
## အလယ်အလတ်လမ်း စဉ်ကို ရွေးချယ်ပါ နှမငယ်...

တရားတော်အရ ပြသခွင့်ရှိတဲ့သူတွေရှေ့မှာ မိမိရဲ့ အဝတ်အစားကို ကျော့ရှင်းနေအောင် ဝတ်ဆင်ပါ။ မိမိရဲ့ ပုံရိပ်ကိုလည်း လှပနေအောင် စွမ်းဆောင်ပြပါ နှမငယ်။ ဒါပေမဲ့ ထိုသို့ပြုရာမှာ ဖြုန်းတီးမှု မပြုပါနဲ့ နှမငယ်။ ဘာကြောင့်လဲဆိုတော့ အချို့အမျိုးသမီးတွေဟာ မိမိရဲ့ အလှအပအတွက် များစွာသော ငွေကြေးတွေကို မလိုအပ် ဘဲသုံးစွဲနေကြတယ်။ဒါကြောင့်မို့နှမငယ်ဟာ ထိုအမျိုးသမီး တွေရဲ့ အသင်းဝင်များအနက်မှ မဖြစ်ပါစေနဲ့။ ဖြုန်းတီးမှု နှင့်စေးနဲမှု နှစ်ခုစလုံးကို ရှောင်ကျဉ်ပြီး ကုရ်အာန်ကျမ်း တော်မြတ်မှာ အလ္လာဟ်အရှင်မြတ် ချီးမွမ်းထားတဲ့ အလယ်

အလတ်လမ်းစဉ်ကို လိုက်နာသူတွေအနက်မှ ဖြစ်ပါလေ နှမငယ်။ အလ္လာဟ်အရှင်မြတ်ဟာ ၎င်းပုဂ္ဂိုလ်တွေနဲ့ ပတ်သက်ပြီး ဤသို့ ချီးမွမ်းခန်း ဖွင့်ထားပါတယ်။ "ထိုမှတစ်ပါး အကြင်သူများပင်၊ ထိုသူတို့သည် သုံးစွဲကြသောအခါ အချည်းအနှီး ဖြုန်းတီးကြသည်လည်း မဟုတ်ပေ။ စေးနှဲကြသည်လည်း မဟုတ်ပေ။ စင်စစ် (၎င်းတို့၏သုံးစွဲမှုကား) ယင်း (အချည်းအနှီး ဖြုန်တီးမှုနှင့် စေးနှဲမှု)၏ အကြားတွင် မလွန်မယုတ် အလယ်အလတ် သုံးစွဲမှုသာလျှင် ဖြစ်ပေသတည်း။ (၂၅-၆၇) အဝတ်အစားကို မက်မောခြင်း ကနေ ရှောင်ကျဉ်ပါ နှမငယ်။ အချို့သူတွေဟာ အဝတ်အစား နောက်လိုက်ပြီး အဝတ်အစားရဲ့ ကျေးကျွန် ဖြစ်သွားကြ တယ်။ နောက်ဆုံးပေါ်သမျှ အဝတ်အစားကို ကိုယ်ပေါ် မတင်ရရင် နေမထိထိုင်မသာ ဖြစ်လာကြတယ်။ ဒါနဲ့ပတ် သက်ပြီး ကိုယ်တော်မြတ် (ﷺ) က ဤသို့ မိန့်တော်မူထား တယ်။ "ရွှေ၊ ငွေရဲ့ ကျေးကျွန်၊ အဝတ်အစားရဲ့ ကျေးကျွန် တွေ ပျက်စီးပါစေ။ ၎င်းတို့ဟာ လိုချင်တာ ရရှိပါက ကျေနပ်

ကြပြီး မရရှိပါက ရောင်ရဲ တင်းတိမ်မှု လည်းမရှိ၊ ကျေနပ်မှု လည်း မပြုကြပေ။” (ဗိုခါရီကျမ်း၊ ဟဒီးဆ်နံပါတ်-၆၄၃၅)

## မိမိနဲ့ သင့်လျော်မယ့်အလုပ်အကိုင်မျိုးကို ရွေးချယ် လုပ်ကိုင် ပါ နှမငယ်...

မွတ်စ်လင်မ်အမျိုးသမီးဆိုတာ မလိုအပ်ဘဲ အိမ်ရဲ့ပြင်ပအလုပ်တွေမှာ မွေ့လျော်လေ့မရှိပါ။ မိမိရဲ့ စားဝတ်နေရေးကို တာဝန်ယူပေးမယ့်သူ မရှိမှသာ မလွဲမရှောင်သာတဲ့အဆုံး အိမ်ရဲ့ပြင်ပအလုပ်တွေကို လုပ်ကိုင်ကြရတာဖြစ်ပါတယ်။ ဘာကြောင့်လဲဆိုတော့ အစ္စလာမ်သာသနာက အမျိုးသားတွေမှာ အမျိုးသမီးရဲ့ စားဝတ်နေရေး တာဝန်ကို ထမ်းဆောင်ဖို့ သတ်မှတ်ပေးထားတဲ့ အတွက် ကြောင့်ပါပဲ။ သို့မှသာ အမျိုးသမီးဟာ မိမိရဲ့ ပင်ကိုဗီဇနဲ့ မအပ်စပ်ဘဲ အလုပ်ရဲ့ပင်ပန်းမှု ဒဏ်တွေကို မခံစားရမှာဖြစ်တယ်။ ဒီတော့ အမျိုးသမီးဟာ မိမိရဲ့ အိမ်မှုကိစ္စကို ပိုင်နိုင်စွာပြုလုပ်ပြီး မိသားစု အသိုက်အမြုံလေးရဲ့ ပွဲကိုင်ရှင်မအဖြစ် ပီပြင်စွာ ရပ်တည်နိုင်မှာဖြစ်ပါတယ်။ ဒီအတိုင်းပဲ အစ္စလာမ်

သာသနာတော်က မွတ်စ်လင်မ်အမျိုးသမီးကို ကာအိခြွေနဲ့ တကွ အန္တရာယ်အပေါင်းကနေကင်းရှင်းစွာ ဘဝကို ရှင်သန် စေချင်တာပါ။ ထိုအတွက်ကြောင့်ပဲ အစ္စလာမ်သာသနာ တော်က ဤသို့ တိုက်တွန်းထားခြင်း ဖြစ်ပါတယ်။

## သေသူအပေါ်မှာ ယေင်ကျူးငိုချင်းချမှု မပြုပါနဲ့ နှမငယ်...

ယေင်ကျူးခြင်းဟာ မွတ်စ်လင်မ်တို့ရဲ့ လုပ်ရပ်တွေ ထဲက မဟုတ်သလို ချီးကျူးထိုက်တဲ့ လုပ်ရပ်လည်း မဟုတ် ပါဘူး နှမငယ်။ သို့သာမက ထိုအပြုအမူဟာ ကာဖိရ် (သွေ ဖည်ငြင်းပယ်) သူတို့ရဲ့လုပ်ရပ်ပဲ ဖြစ်တယ်။ ဒါကြောင့်မို့ အဲ့ဒီလိုလုပ်ရပ်ကို ရှောင်ကျဉ်ပါ။ ပြီးတော့ ကိုယ်တော်မြတ် (ﷺ) ကလည်း အဲ့ဒီလိုလုပ်ရပ်ဆိုးနဲ့ ပတ်သက်ပြီး ဤသို့ ပြင်းပြင်းထန်ထန် မိန့်တော်မူထားပါတယ်။ “ကုဖ်ရ် ထိုက် စေတဲ့ လုပ်ရပ်နှစ်ခုကို ကျူးလွန်ခြင်းဟာ လူတွေထဲမှာ အရမ်းကို ရေပန်းစားနေတယ်။ ပထမတစ်ခုဟာ မျိုးရိုး ဂုဏ်ကို ထိပါးစော်ကားခြင်းဖြစ်ပြီး၊ ဒုတိယတစ်ခုမှာ ယေင်

ကျူး ငိုချင်းချခြင်း ဖြစ်တယ်။ (မွတ်စ်လင်မ်ကျမ်း၊ ဟဒီးစ်နံပါတ်-၆၇)
ထို့အတွက်ကြောင့် ဤသို့သော ကြီးလေးတဲ့ ပြစ်မှုကနေ ရှောင်ကျဉ်ပါ။ ဒီတင်မကသေးဘဲ အစ္စလာမ်တရားတော်ကို တတ်ကျွမ်းတဲ့ အမျိုးသမီးဆိုတာ သေခြင်းတရားကို လွဲဖယ် ရှောင်ကွင်းလို့မရတဲ့ အမှန်တရားအဖြစ် လက်ခံထားပါတယ်။ တကယ်တော့ လောကမှာ ရှိရှိသမျှ သတ္တဝါ အားလုံးဟာ ပျက်သုဉ်းရမှာပါ။ သို့သာမက သေခြင်းတရား ဆိုတာ နောင်တမလွန်ဘဝနဲ့ ချိတ်ဆက်ပေးတဲ့ ပေါင်းကူး တံတားပါ။ ဒါကြောင့်မို့ မလိုလားအပ်တဲ့ ကြောက်ရွံ့မှုတွေ နဲ့ စိတ်ကယောက်ကယက် ဖြစ်မှုမျိုး မဖြစ်သင့်ပါဘူး နှမငယ်...

## မိုင်ယသ်ကို သုသာန်သို့ လိုက်လံပို့ဆောင်ခြင်းကနေရှောင် ကျဉ်ပါ နှမငယ်...

မိုင်ယသ်ကို သုသာန်သို့ ပို့ဆောင်ခြင်းနဲ့ပတ်သက်ပြီး ဟဇရသ် အွမ္မေ့အသ္ဝီယာ (ﷺ) သခင်မကြီးက ကိုယ်တော် မြတ်(ﷺ)ထံပါးကနေ ဤသို့ ဆင့်ပြန်ထားပါတယ်။ ကျွန်မ

တို့ဟာ ဂျနာဇဟ်ကို လိုက်လံ ပို့ဆောင်ခြင်းကနေ တားမြစ်ခြင်းခံထားရပါတယ်။ ဒါပေမဲ့ ကျွန်မတို့အပေါ် မှာ အတင်းအကျပ် တားမြစ်ခဲ့တာမျိုးတော့ မဟုတ်ပါဘူး။

(မွတ်စ်လင်မ်ကျမ်း၊ ဟဒီးစ်နံပါတ်-၉၃၈)

ဖော်ပြပါ အမိန့်ပညတ်တော်မှာ အမျိုးသားတွေဟာ အမျိုးသမီးတွေနဲ့ မတူကွဲပြားတဲ့ တာဝန်ကို ပေးအပ်ခြင်းခံထားရပါတယ်။ ဘာလို့လဲဆိုတော့ အစ္စလာမ်သာသနာတော်က အမျိုးသားတွေကို မိုင်ယသ်ရဲ့ ဂျနာဇဟ် လိုက်ပို့ဖို့သာမက ဂျနာဇဟ်နမားဇ် ဖတ်ပေးဖို့ရာနှင့် မြေမြှုပ်သင်္ဂြိုလ်ပြီးသည်အထိ စောင့်ဆိုင်းနေပေးဖို့ တိုက်တွန်းထားပါတယ်။ ဒီအမိန့်မှာ ကိုယ်တော်မြတ်(ﷺ)ဟာ အမျိုးသမီးတွေနဲ့ ပတ်သက်ပြီး ထိုသို့မိန့်ခြွေရခြင်းမှာ အထူးသဖြင့် အမျိုးသမီးတွေဟာ ဤသို့သောမြင်ကွင်းတွေကို မြင်ရရင် စိတ်မထိန်းနိုင်ဘဲ ရှရီအသ်တရားတော်က တားမြစ်ထားတဲ့ အော်ဟစ်ငိုကြွေးခြင်း၊ အကျီမျာကို စုတ်ဖြဲခြင်း၊ ရင်ဘတ်ထုကာ အော်ဟစ်ခြင်း စတဲ့ အရာတွေကို ပြုလုပ်တတ်တဲ့

အတွက်ကြောင့် ဖြစ်ပါတယ်။ ဒီအတွက်ကြောင့်ပဲ ကိုယ်တော်မြတ်(ﷺ)ဟာ မိုင်ယသ်လိုက်ပို့ခြင်း ကိစ္စကို ယတိပြတ်တားမြစ်ခြင်း မပြုတာဖြစ်ပါတယ်။ ဒါပေမဲ့ အသိဉာဏ်ကြွယ်ဝတဲ့ မွတ်စ်လင်မ် အမျိုးသမီးဟာ အဲ့ဒီတားမြစ်မှုကို လိမ္မာပါးနပ်စွာနဲ့ လိုက်နာရပါမယ်။ သို့မှသာ မိမိဟာ ကိုယ်တော်မြတ် (ﷺ) ရဲ့အမိန့်တော်ကို တစ်သဝေမတိမ်း လိုက်နာတယ်ဆိုတဲ့ အကြောင်းကို သက်သေပြလို့ရမှာ ဖြစ်ပါတယ်။

## နိဂုံး

အမျိုးသမီးနဲ့ပတ်သက်တဲ့ အရေးကိစ္စ အဝဝဟာ ၎င်းသူမရဲ့ ဖခင်နှင့်သားတို့ရဲ့ အရေးကိစ္စပဲဖြစ်ပါတယ်။ ဒါကြောင့်မို့ လောကမှာ သူမတို့ရဲ့ ဖခင်နဲ့သားတွေရှိနေသ၍ သူမတို့အတွက် ကြီးမားလှတဲ့ ဂုဏ်ဒြပ်တွေဟာလည်း ရှိနေမြဲပါ။ ထို့အတွက်ကြောင့် အစ္စလာမ်သာသနာတော်က ပြုစုပျိုးထောင်ထားသော မွတ်စ်လင်မ် အမျိုးသမီးတွေထံ သို့လည်းကောင်း၊ ကျွန်ုပ်တို့ကို ကောင်းမွန်ကျနစွာ ပြုစု

ပျိုးထောင်ပေးခဲ့သော မိခင်မွန်ကြီးတွေဆီသို့လည်းကောင်း တလေးတစားဖြင့် ကျွန်ုပ်ရဲ့ ဤစာအုပ်လေးကို လိပ်မူလိုက်ပါတယ်။ ဒီစာတမ်းလေးထဲမှာ "မွတ်စ်လင်မ်အမျိုးသမီးတစ်ဦးဟာ သူမရဲ့ ဖန်ဆင်းရှင်ကို ဘယ်လို ခဝပ်ကိုးကွယ်မှုပြုရမလဲ။ မွတ်စ်လင်မ် အမျိုးသမီးတစ်ဦးဟာ သူမရဲ့ တစ်ကိုယ်ရည်ဘဝကို ဘယ်လို ရှင်သန်ရမလဲ။ မိမိရဲ့ ကိုယ်ကာယအလှအပကို ဘယ်လို ဆင်မြန်းရမလဲ။ မွတ်စ်လင်မ် အမျိုးသမီးတစ်ယောက်ဟာ မိမိရဲ့မိဘ၊ မိမိရဲ့အမျိုးသားကို မည်သို့မည်ပုံ ဆက်ဆံရမလဲ။ ပြီးနောက် အစ္စလာမ်နည်းကျ မိမိရဲ့သားသမီးတွေကို မည်သို့မည်ပုံ ပြုစုပျိုးထောင်ရမလဲ။ ထို့နောက် မိမိရဲ့ချွေးမ၊ သားမက်တွေနဲ့ ဘယ်ပုံစံ ဆက်ဆံရမလဲ။ ထို့ပြင် မွတ်စ်လင်မ်အမျိုးသမီးတစ်ဦးဟာ မိမိရဲ့ပတ်ဝန်းကျင်မှာ မည်သို့မည်ပုံ နေထိုင်ရမလဲ။ စတဲ့ မွတ်စ်လင်မ် အမျိုးသမီးတစ်ယောက်ရဲ့ ဘဝနဲ့ သက်ဆိုင်တဲ့ ကဏ္ဍပေါင်းစုံကို ကျွန်ုပ်တက်စွမ်းနိုင်သမျှ အာယသ်တော်၊ ဟဒီးစ်တော်တွေရဲ့ အကိုးအကားနဲ့ ဖော်

ပြထားပါတယ်။ ထို့အတွက်ကြောင့် ဦးစွာပထမ အနေနဲ့ စာဖတ်သူ နှမငယ်အား အစ္စလာမ့်တရားတော်ကို စွဲမြဲစွာ လက်ဆုပ်လက်ကိုင်ပြုပါလို့ မေတ္တာရပ်ခံလိုပါတယ်။ ပြီးနောက် ဒုတိယအနေဖြင့် ဒီစာအုပ်ငယ်လေးကို စလယ်ဆုံး ကျေညက်စွာ ဖတ်ရှုပြီး စာတန်းလေးထဲပါတဲ့ အမိန့်ပညတ်ချက်တွေကို မိမိရဲ့ဘဝထဲ ဆင်မြန်းဖို့ရာနှင့် မိမိဘဝရဲ့ ကဏ္ဍတိုင်းမှာ ဒီအမိန့်ပညတ်ချက်များကို လက်တွေ့လိုက်နာကျင့်သုံးဖို့ မေတ္တာရပ်ခံအပ်ပါတယ်။ ထို့အပြင် အစ္စလာမ်သာသနာတော်လာ အမိန့်ပညတ်ချက်တွေကို မိမိတို့ အမျိုးသမီးတွေကြားမှာ ပြန်လည်ဖြန့်ကျက်ဖို့ရာလည်း မေတ္တာရပ်ခံသလို အထူးသဖြင့် ဒီလိုလမ်းညွှန်ချက်တွေကနေ လက်မဲ့ဖြစ်နေတဲ့ နှမငယ်တွေကြားမှာ အထူးဖြန့်ကျက်ပေးပါလို့ အနူးအညွတ် မေတ္တာရပ်ခံအပ်ပါတယ်။ ပြီးနောက် ဒီစာအုပ်ငယ်လေးကို အလ္လာဟ်အရှင်မြတ် လက်ခံဖို့ရာနှင့် ဒီစာအုပ်ငယ်လေးကို အကြောင်းခံပြီး လူသားထု တစ်ရပ်လုံး အကျိုးရရှိဖို့ရာ အလ္လာဟ်အရှင် ထံ

ကျွန်တော်မျိုးတောင်းခံပါတယ်။ နောက်ဆုံး ဒီစာအုပ်ငယ်လေးနဲ့ ပတ်သက်ပြီး ကျွန်တော့်ရဲ့တောင်းဆုကတော့ “အိုး-ကျွန်တော်မျိုးတို့အား မွေးမြူ ဖန်ဆင်းတော်မူသော အရှင် ကျွန်တော်မျိုးတို့ထံမှ (ဤကောင်းမှုကို အရှင်၏ အနန္တကျေးဇူးတော်ဂုဏ်ဖြင့် သဘောတူ လက်ခံတော်မူပါ။ ကေန်မုချ အရှင်သည်သာလျှင် ကျွန်တော်မျိုးတို့၏ဆန္ဒများကိုလည်းသိတော်မူသော အရှင်ဖြစ်တော်မူပါ၏) ပဲဖြစ်ပါတယ်။

ဆန္ဒမွန်ဖြင့် ...

မိုဟာမ္မဒ်ဖိုင်ဆွလ်၊ အလ်ကောင်စရီ (ဝါးခယ်မ)

ချီမွမ်းထောမနာ ဟူဟူသ၍ဟာ ကြီးမြတ်လှစွာသော အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအတွက်သာ ဖြစ်တော်မူပါတယ်။ ထို့နောက် စွမ်းဆောင်နိုင်မှု ဟူဟူသ၍ဟာလည်း အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူခြင်းဖြင့်သာ ဖြစ်တော်မူပါတယ်။ အလ္လာဟ်အရှင်မြတ်ရဲ့ ကျေးကျွန်မှာ စွမ်းဆောင်နိုင်စွမ်း တစ်စုံတစ်ရာမျှ မရှိပါ။ ထို့အတွက် ကြောင့်ပင် အရှင့်ကျေးကျွန်ရဲ့ မပြည့်စုံတဲ့ ဤကြိုးပမ်းမှုလေးကို အရှင်မြတ် လက်ခံတော်မူပါ။ ဤကြိုးပမ်းမှုလေးဟာ တကယ်တော့ အရှင်လက်ခံထားတဲ့ ပညာရှင်ကြီးတွေရဲ့ ကြိုးပမ်းမှုတွေနဲ့ နှိုင်းယှဉ်မယ်ဆိုပါက သမုဒ္ဒရာရေနဲ့ နှင်းစက်ပျောက်လေး တစ်ပြောက် ပမာပါပဲ။ ထို့ကြောင့် မပြည့်စုံတဲ့ ဤလူသားရဲ့ မပြည့်စုံတဲ့ ကြိုးပမ်းမှုလေးကို အရှင်ရဲ့ ကရုဏာသက်သက်နဲ့ လက်ခံတော်မူပြီး မွတ်စ်လင်မ် အမေ၊ နှမတွေအတွက် အကျိုးဖြစ်ထွန်း စေတော်မူပါ။ နောက်ဆုံးအနေဖြင့် အရှင်မြတ်ရဲ့ အမွန်မြတ်ဆုံး ကျေးကျွန် ကိုယ်တော်မြတ်(ﷺ)အပေါ် ဝယ် ဆွလာသ် စလာမ် ပို့သပါတယ်။